ဒီနေ့ ရာသီဥတု သာယာ၏။ မနက်လင်းအားကြီး အချိန်လေး၌ပင် မိုးလေး တစ်ဖြောက်နှစ်ဖြောက်လောက် ရွာသွန်းလိုက်၏။ ရွာလိုက်တာလည်း နည်းနည်းပါ။ မဆိုသလောက်လေးပင်။

ကော်ဖီဖျော်စပ်ဖို့အတွက်ကျွန်တော် သုံးမိနစ်ရေနွေးအေးလေးကို တည်လိုက်၏။ "ဂျလောက်" ဟူသော မြည်သံတစ်ခုနှင့်အတူ ရေနွေးအိုးလေးက သူ၏အလုပ်တွေကို လုပ်ဆောင်နေ၏။ ကျွန်တော်၏ မျက်ဝန်းအစုံမှာလည်း ဖျော်စပ်ဖို့အလို့ငှာ ကော်ဖီဗူးရှာရင်းနှင့် ရှိနေ၏။

နေထွက်စအချိန်ဖြစ်ပြီး ရောင်နီသမ်းပြီးခါစ အချိန်ဖြစ်၍ ရှိနေသော ဉာဉ်ရပ်ကွက်ကြီး၏ ဆိတ်ငြိမ်ခြင်းဟာလည်း အပ်ကျသံပင်ကြားရသည်ထိ ဆိတ်ငြိမ်လှ၏။ ဒါက တက္ကသိုလ် ရိပ်သာလမ်း ဖြစ်ခြင်းကြောင့်များလား။

ဒါကိုတော့ ကျွန်တော်လည်းမသိချေ။

စူပွက်လာပြီဖြစ်သည့် ရေနွေး၏ ကျက်ခြင်းမှာ ကျွန်တော်ကော်ဖီ တစ်ခွက် ဖျော်စပ်လိုက်၏။ ကော်ဖီဆို black coffee ပဲ သောက်တတ်သည့် ကျွန်တော့်မှာ ကျောင်းတုန်းကအတိုင်းပင်

ယခုထိ အကျင့်မပျောက်သေး။ ကော်ဖီမှုန့်ထဲ ရေနွေးလောင်း ထည့်လိုက်ပြီးမှ သံပုရာခြမ်းတစ်စိတ်ကိုလည်း ခပ်ချဉ်ချဉ်လေး ဖြစ်အောင် ကျွန်တော်ညှစ်ထည့်လိုက်၏။ coffeeဆို ကျွန်တော်၏ အကြိုက်က ခါးမှ/ချိုမှ မဟုတ်။

အိပ်ချဉ်ပြေ/စိတ်ကြည်သွားစေရန် သံပုခြားလေးတစ်စိတ်တော့ ညှစ်ထည့်၏။ ဒါမှ ကျွန်တော်ကလည်း သဘောကျသည်လေ။

ကော်ဖီသောက်ရင်း ဓါတ်ပြားတစ်ခုပေါ်သို့ ကျွန်တော လက်လှန်း မိ၏။ ဓါတ်ပြားပေါ်ကျရောက်နေသည့် အပ်လေး၏ အလိုမှာ ဓါတ်ပြားလေးမှ သံစဉ်လေးများ စတင်ထွက်ပေါ်လာ၏။

အောက်မေ့/ တသ/ သတိရခြင်းတွေမှာ ထွက်ပေါ်လာသော ဓါတ်ပြားလေး၏ သံစဉ်အတိုင်း ကျွန်တော်၏ နှုတ်အစုံမှလည်း ထိုသံစဉ်လေးကို ညည်းမိပြန်၏။ ကော်ဖီခွက်ကို ဘေးရှိခုံအလွတ် ပေါ်သို့ချရင်း ကျွန်တော် တစ်စုံတစ်ခုကို လက်နှင့် လှန်းယူလို က်၏။ လက်ရှိ ကျွန်တော်ရှိနေသည်က ဓါတ်ပြားတင်ထားသော စားပွဲလေး၏ဘေးမှာ ရှိနေသော ကုလားထိုင်လေး။ သို့ဖြစ်၍ ကျွန်တော် ထိုင်နေသည်ဆိုလည်း မမှားပေ။

" ရန်ကုန်တက္ကသိုလ်၏ ရာပြည့်ပွဲတော် ဖိတ်ကြားလွှာ။"

စသည့် ခေါင်းစဉ်နှင့်အတူ ပါရှိလာသော စာအရှည်ကြီးအပြင် နောက်တွေ့ရှိလိုက်ရသည်က ရက်စွဲ။

"၂၀၂၀၊ ဒီဇင်ဘာ၁ရက်--!"

ထိုရက်စွဲနှင့်အတူ စကားလုံးများစွာကိုလည်း ကျွန်တော်၏ နှုတ်အစုံမှ ထပ်မံထွက်ဆိုလိုက်ပြန်၏။

"ကုန်လွန်ခဲ့တဲ့ ရက်/လ/နှစ်/ဥတု ရာသီတွေမှာ ငါ တာဝန် ထမ်းဆောင်ခဲ့တဲ့ ဒီတက္ကသိုလ်ကြီးကပင် ရာပြည့်သွားခဲ့ပြီ။ ဒါဆို ငါ၏ အညွန့်တွေ အကိုင်းတွေ ဝေဆာအောင် အစချီခဲ့တဲ့ ကနဦး ရေသောက်မြစ် ကြီးကရော။ ငါ၏ ကျောင်းတော်ကြီးကရော။ ဘယ်နှစ် ၊ ဘယ်လ၊ ဘယ်ရက်တွေမှာ ရာပြည့်မှာနည်း"

ကျွန်တော်၏ မိန်းမော တွေဝေခြင်းများစွာမှာ ဖိတ်ခြင်းခံထား ရသည့် ကျွန်တော်၏ အမည်လေးက လေအတိုက် တစ်ချက် တစ်ချက် လွင့်နေ၏။

" ရန်ကုန်တက္ကသိုလ် ဒဿနိကဌာနမှ ဒုပါမောက္ခ ဦးခွန်စဝ်လက်ာ စီသို့--!"။

ထိုစာတန်းလေးနှင့်အတူ ကျွန်တော် တစ်ရပ်တစ်ဒေသကို သတိရလာသည်။ အောက်မေ့လာသည်။ တသလာသည်။ လွမ်းဆွတ်လာသည်။ တစ်ချိန်မှာ ဝေခဲ့ကြတဲ့ တန်းတူပန်းတွေ/ အညွန့် /အကိုင်းတွေ အဖူးတွေ အစရှိသည်များကိုလည်း သတိရလာသည်။ ရော်ယမ်းခြင်းများစွာနှင့် ကျွန်တော်တသ နေရင်း အရည်ကြည်လေးများပင် ကျွန်တော်၏ မျက်ဝန်းအစုံမှ ထွက်ဆါလာ၏။ တသခြင်းများနှင့် ရောစွတ်ခဲ့သည့် အရည်ကြည်လေးများကို ကျွန်တော် ဖယ်မရှားပြစ်ရက်။ နှစ်ခါပြန်အောက်မေ့စရာများစွာရှိသော ထိုနယ်မြေလေးကို ကျွန်တော်တသလာသည်။ တစ်ခါပြန် ရောက်ချင်နေသော ကျွန်တော်၏ စိတ်စေရာခြင်းများစွာမှာ ကျွန်တော်၏ စိတ်ကို လွတ်လပ်ခွင့်ပေးခဲ့ရင်းနှင့်။

အောက်မေ့ /ရော်ယမ်း/တသခြင်းများစွာ။

လွမ်းရယ်မပြေခြင်းများစွာမှာ လွတ်လပ်ခွင့်ပေးခဲ့သည့် စိတ်၏ စေစားရာများ။ စေစားခြင်းတွေအလိုမှာ သင်တို့လည်း ကျွန်တော်

နှင့်အတူ အောက်မေ့/ တသလိုက်ရအောင်။ တစ်ခုသော ရပ်ဝန်းလေးတစ်ခုစီကိုပေါ့--

*******

ဆယ်တန်းပြီး၍ တစ်နှစ်နားနေရသည့် အချိန်။

အဲ့ဒီအချိန်တုန်းက ကျွန်တော့်မှာ လုပ်စရာဟူ၍ မရှိခဲ့။ ဆယ့်ခြောက်နှစ် ဆယ်တန်းပြီးသည့် ကျွန်တော့်မှာ ဆယ့်ခုနစ်နှစ်တွင် ပထမနှစ်တန်းသို့ တက်ရောက်ရတော့မည်။ နားနေရသည့် အချိန်ကာလတစ်ခုမှာ ကျွန်တော်နှင့် အဖော်အဖြစ်ရှိနေသည်က မမ၏ စာအုပ်များပင်။ တစ်ဦးထဲသော သားမဟုတ်ခဲ့သည့် ကျွန်တော့်မှာ မမလည်းရှိသည်။ ယဉ်ယဉ်လေးနဲ့ နုပျိုလှသည့် မမမှာ ထက်လည်းထက်သလို ရင့်ကျက်မှုရှိပြီး တည်ငြိမ်၏။ တည်ငြိမ်မှ မမကဘွဲ့ရပြီးသွားပြီလေ။ အတွေးအခေါ် ဘာသာရပ်နှင့် ဘွဲ့ယူထားပြီး လက်ရှိ ဖေဖေ/ မေမေ၏ စီးပွားရေးများမှာ လုပ်ကိုင်ပေးရင်း တစ်ခါတစ်ခါ ကဗျာလေး/ စာလေးများပင် စပ်လိုက်/ရေးလိုက်သေး၏။

စာဖတ်ဝါသနာပါပြီး အတွေးအစရှိသည့် မမှာ ကျွန်တော်၏ စာဖတ်စွမ်းရည်ကို မြှင့်တင်ပေးခဲ့သူဆိုရင်လည်း မမှားပေ။ ထို့ကြောင့်နှင့် ကျွန်တော် စာပေများနှင့် ရင်းနှီးလာခဲ့ပြီး အကြိုက်ဆုံးများပင် ရှိလို့လာခဲ့ပြီ။

ဆရာမပုညခင်/ ဆရာတက္ကသိုလ်ဘုန်းနိုင် / ဆရာမြသန်းတင့်၏ ဘာသာပြန်များနှင့် ကိုယ်ရေးဝတ္ထုများဆိုရင်လည်း တစ်အုပ်မှ မလွတ်။ ထွက်သမျှ ကျွန်တော် ဖတ်၏။ ဖတ်ပြီးလျှင်လည်း ပြန်ဖတ်၏။ စာရေးခြင်းဆိုတဲ့အတတ်ပညာဟာ တွေးစရတာ ကြောင့် ကျွန်တော် စာရေးသူတိုင်းကို လေးစား၏။ အားကျ၏။ ထို့ကြောင့်နှင့် ကျွန်တော်၏ ဦးစားပေးလျှောက်သည့် ဘာသာရပ် ဟာလည်း တွေးခေါ်ခြင်းဆိုသည့် ဒဿနိကဖြစ်လို့လာခဲ့၏။

၁၉၉၉ ခုနှစ်၊ ဩဂုတ်လဆန်းပိုင်း။

ရက်တော့ ကျွန်တော် သိပ်မမှတ်မိတော့ချေ။

အညွန့်တွေ/အခက်တွေ ဝေရတော့မည့် နေရပ်တစ်ခုကို ဦးတည် နေ၍ ကျွန်တော် စိတ်လှုပ်ရှားနေမိ၏။ ထို့အတူ ကျွန်တော်နှင့် တစ်ကားထဲ စီးလာသော ကိုစိုင်းလည်း ကျွန်တော့်လို စိတ်လှုပ်ရှား

နေမည်ဆိုတာ ကျွန်တော်အတတ်သိနေ၏။ တစ်ပြည်သားဖြစ်ပြီး အရပ်လေးသာကွဲသည့် ကိုစိုင်းနှင့် ကျွန်တော်မှာ ညီအစ်ကိုလိုဆို ရင်လည်း မမှားပေ။ ကျွန်တော်ထက် နှစ်ပိုင်းလောက်ကြီးပြီး ကျန်းမာရေးကြောင့် အတန်းနားလိုက်ရသည့် ကိုစိုင်းမှာ ကျွန်တော့်ကို စောင့်သလို ဖြစ်သွားရင်း ကျွန်တော်နှင့် တန်းတူ ဖြစ်သွား၏။

နှစ်ဦးလုံး တောင်ပိုင်းသား ဖြစ်ကြခြင်းတွေမှာ ကိုစိုင်းက ရှမ်းပြည်အညာဒေသဟု ဆိုရမလားပဲ။ အဲ့ဒီအရပ်က အဆိုကျော် တစ်ဦး သီဆိုထားတဲ့ သီချင်း အရပ်ပေါ့။ ကိုစိုင်းက လင်းခေးသား။ ကျွန်တော်က တောင်ကြီးသား။ အမှန် ကျွန်တော်နေရမည့် အရပ်က ညောင်ရွှေပင်။

တောင်ပိုင်း စော်ဘွားတစ်ဦးဖြစ်သည့် ဖေဖေမှာ အလုပ်အကိုင်များ ကြောင့် နေရပ်တစ်ခုထဲ၌ ရေရှည်မနေရ။ ထို့အတွက် မိသားစု များဖြစ်သည့် ကျွန်တော်/မမနှင့် မေမေမှာလည်း ဖေဖေသွားရာ အရပ်လိုက်ပြီး နေသည်။ တောင်ကြီးမှာတော့ မြဲသည်ဆိုရ မည်ပင်။ တစ်ခါတစ်လေများတွင်လည်း ကလောမှာနေတတ်ပြီး အခြားအချိန်များတွင်လည်း အင်းလေး (သို့) တောင်ပိုင်း နယ်ထဲရှိ

အရပ်တစ်နေရာရာမှာ နေဖြစ်၏။ဒါကလည်း မိသားစု အပျော် သဘော ခရီးထွက်ကြခြင်းပါပင်။ ဖေဖေ၏ အလုပ်ဖြစ်သော ဘိုး/ဘွား လက်ဆင့်ကမ်းလာသည့် သတ္တုတူးဖော်ခြင်းတွေမှာ ဖေဖေက တောင်ပိုင်းတစ်နယ်လုံးကို အပိုင်စားရသည်။

ကိုစိုင်း၏ ဖေဖေနှင့် ရင်းနှီးသည့် ဖေဖေမှာ မိတ်ဆွေတစ်ဦးထက် ညီ/အစ်ကို တစ်ဦးလိုရင်းနှီး၏။ အကြွေစောခဲ့သည့် ကိုစိုင်း၏ အဖေမှာ ဖေဖေ၏ အမှားများလည်း မကင်းပေ။ ဖေဖေ၏ သတ္တုတွင်းမှာ ကြီးကြပ်ရင်း တောင်ပြိုခြင်းမှာ ဇီဝိန် ချုပ်ငြိမ်း သွားခဲ့သည့် ကိုစိုင်း၏ဖေဖေ။ ထိုအချိန်က ကိုစိုင်းခြောက်တန်းသာ ရှိသေးသည်။ ကျွန်တော်နှင့် အတန်းသာတူပြီး အသက်မတူသည့် ကိုစိုင်းမှာ ဖေဖေ၏ လုပ်ငန်းတွင် ထိုအချိန်ထဲမှစ၍ လိုက်ပါ လုပ်ကိုင်သည်။ တားဍ မရခဲ့သည့် ကိုစိုင်းကို ဖေဖေကလည်း နောက်ဆုံး၌ ခွင့်ပြုပေးခဲ့ရ၏။ သားအကြီးဖြစ်ပြီး အမွှာညီမလေး နှစ်ဦးပင် ရှိသည့် ကိုစိုင်းမှာ သားကြီးတာဝန်ကို ငယ်ရွယ်စဉ်မှပင် ယူခဲ့သည်။

တာဝန်ကျေပြီး သိတတ်လွန်းသည့် ကိုစိုင်းမှာ အခုဆို ဖေဖေ၏ လူရုံလုံးလုံးပင် ဖြစ်လို့နေခဲ့ပြီ။ အခုလည်း ကြည့်ပါလား။

ကျွန်တော့်ကို ဘေးထားပြီး နှစ်နှစ်ခြိုက်ခြိုက်ကြီး အိပ်ပျော်နေတာက၊ မေမေ၏ စိုးရိမ်ခြင်းတွေမှာ ကိုစိုင်းက ကျွန်တော့်ကို စောင့်ရှောက်ဖို့ သက်တော်စောင့် တစ်ဦးလိုပင်ရှိနေ၏။ လူကသာ အိပ်နေတာ ခြေတစ်ဖက်က အရှေ့မှ ခုံကို ကန်ထား၏။ ကျွန်တော် မထွက်အောင်ပေါ့၊

"ကျော်သွားရင်ရတာကို ကိုစိုင်းရယ်"

ကျွန်တော် စိတ်အတွင်း၌သာ ရေရွတ်ရင်း ဝင်စပြုနေပြီဖြစ်သည့် အညာမြေ၏ လမ်းဆုံမြို့လေးကို ကျွန်တော် ရင်သပ်ရှုမောစွာ ကြည့်မိ၏။

အညာမြေ၏ လမ်းစုံမြို့။ ကားလမ်းများစွာပေါက်၏။ အရှေ့တက်လို့ရသလို၊ အနောက်ဆင်းလည်းရ၏။

အညွှန့်/အခက် /အပွင့်/အရိုးများ ဝေရင်းကြီးထွားရင်း ကျွန်တော်၏ ရေသောက်မြစ်ကို ရှာတော့မည်။ ပညာဆည်းပူးတော့မည်။ ကျောင်းသာဘဝများစွာကို ဖြတ်သန်းမည်။

ရယ်မောမည်။ ငိုကြွေးမည်။ ကြိုးစားမည်။ ရုန်းကန်မည်။

အချစ်--?။

ပူလောင်မည် ချိုသာမည်တဲ့ ထိုအရာကိုလည်းမြည်းစမ်းမည်။ ဘဝတက္ကသိုလ်ဖြစ်သည့် ဒီအရပ်မှာ ရသ/သုတ အနှစ်သာရများစွာ ရအောင်တော့ ကျွန်တော်ရှာမည်။ လွတ်လပ်စွာနေမည်။

သို့သော် ဘောင်တော့ လွတ်သွားမည်မဟုတ်။

အဲ--! မေ့တော့မလို့။ အဆိုအဖွဲ့တွေ စပ်ဆိုရင်းနှင့်ပဲ ကျွန်တော်တက်မည့် မြို့လေးကို ခင်ဗျားတို့ မသိဖြစ်လိုက်ကြအုံးမည်။ မလောပါနှင့်။

ပြောပါမည်။

အညာမြေလမ်းစုံမြို့။ ကားလမ်းပေါင်းများစွာနှင့် ရှိသောမြို့။ ကလေး ချော့တေး စပ်ဆိုထားသောမြို့။ ငယ်စဉ် မေမေပုခက်တွင်း ချော့သိပ်သော ကဗျာ/သီချင်းလေးအတိုင်း ရှိသောမြို့။ ဖားကောက်ခဲ့ပါဟု အဆိုပြုကြသော ကန်ကြီးရှိသောမြို့။

ထီလာဟု နာမည်တွင်သည့် မိတ္ထီလာ မြို့ကလေးဖြစ်သည်။

"ကိုစိုင်း ဒါကျွန်တော်တို့ ကျောင်းကြီးတဲ့ဗျ--!"

"ဆန်းကျယ်လိုက်တာကွာ--!။ လှပလိုက်တာလည်း အံ့မခန်းပဲ။ အကျယ်ဆိုတာကြီးကလည်း ဘယ်လောက်များ ရှိမလဲမသိဘူး။ ကိုစိုင်း အထင်တော့ ကျောင်းကြီးက တော်တော်ကျယ်ဝန်း မယ်ပြောရမှာပဲ "

"ဟုတ်ပ့ါ ကိုစိုင်းရာ"

နှစ်ဦးသား မြင်းလှည်းပေါ်မှနေ တစ်ဖက်ကားလမ်းဘေး၌ ခမ်းနား လှစွာရှိနေသော ကျောင်းကြီး၏ တည်ရှိခြင်းကို တစ်ခွန်းတစ်ဆေ ပြောဖြစ်ကြသည်။ မြင်းလှည်းသံ၏ တစ်ခွပ်ခွပ် ခွာသံတွေမှာ ကျွန်တော်နှင့် ကိုစိုင်းလည်း နှစ်ဦးသား ပြုံးမိ၏။ မြင်းလှည်း ဆိုတာကလည်း အခြားတော့မဟုတ်။ ကားကွင်းမှာ ကားရပ်ပြီး သုံးဘီးလူပြည့်နေသည်ဆို၍ ကျွန်တော်နှင့် ကိုစိုင်းမှာ လက်ရှိ မြင်းလှည်းပေါ်သို့ ရောက်ရှိလာခြင်း။ သုံးဘီးငှားတုန်းကလည်း ရယ်ရသေး၏။

"သုံးဘီးဆရာ --!သုံးဘီးဆရာ--! ခဏလေး ကျွန်တော်တို့လည်း လိုက်မယ်ဗျ"

ကိုစိုင်းရဲ့သုံးဘီးခေါ်သံကိုကြည့်ပြီး သုံးဘီးပေါ်ရှိ လူတွေကရောသုံးဘီးဆရာကပါ ကျွန်တော်တို့ကို ကြည့်ပြီး ရယ်သွားရင်း စကားလုံး မြောက်မြားစွာကိုလည်း နှုတ်ခမ်းအသီးသီးမှ ပြောထွက်သွားကြ၏။

"တုတ်တုတ်--! အဲ--! မင်းပြောသလို သုံးဘီးပေ့ါ ။ လူပြည့်နေလို့ လိုက်လို့မရတော့ဘူး ကောင်လေး။ စောင့်နိုင်ရင်တော့ စောင့်ပေ့ါ ကောင်လေးတို့။ ခဏလောက်ဆို တခြားတုတ်တုတ်တွေ ရောက်မယ်ထင်တာပဲ"

"အူကြောင်ကြားလေးတွေနေမယ်"

"တောသားတွေလား မသိပါဘူး၊ တစ်ယောက်ကလည်း လွယ်အိတ်စလွယ်သိုင်းနဲ့ တစ်ယောက်ကလည်း သံသေတ္တာကြီး ထမ်းလို့၊ ကျောင်းလာတတ်ကြတဲ့ ကလေးတွေ ဖြစ်မှာပဲ--!"

"တုတ်တုတ်ကိုတောင် သုံးဘီးပြောနေတဲ့ ဒီကောင်လေးတွေ ဒီရုပ်တဲ့ မြို့မှာ ကျောင်းလာတတ်ရတယ်လို့၊ မြို့သားတွေက လည်ကလည်နဲ့၊ မတော်--"

ထိုများစွာသော စကားလုံးတွေမှာ ကိုစိုင်းရောကျွန်တော်ပါ မျက်နှာပျက်၏။ တောင်ပိုင်းသားတွေ ဖြစ်ကြသည့် ကျွန်တော် တို့နှစ်ဦးမှာ တောသားဟု အပြောခံရတာကို မကြိုက်သည် မဟုတ်။ သဘောတော့မတွေ့လှ။ အရှေ့ဘက်မှာ ရှိနေသည့် ရှမ်းပြည်၏ တည်ရှိခြင်းမှာ ကျွန်တော်တို့နှစ်ဦးလည်း လူရေလည် ပါသည်။

ဒီအရပ်ကို ရောက်ဖူးတာ ပထမဆုံးဖြစ်၍ အူလည်သွားရုံလေးပါ။ ဒါကို သုံးဘီးဆရာနှင့် လိုက်ပါ စီးနှင်းသွားကြသည့် အမျိုးသမီး တွေက ငဒူလေးတွေ/တောသားလေးတွေနှင့်လေ။

"ကျောင်းရှေ့အဆောင်လို့ပြောတဲ့ ကောင်လေးတွေ ရောက်ပြီကွ--!"

"ဟုတ်ကဲ့ ဦးလေး"

မြင်းလှည်းဆရာကတော့ သဘောကောင်းရှာပါသည်။ ကျွန်တော် နှင့် ကိုစိုင်းကို ပြေပြေလည်လည်ပဲ ဆက်ဆံ၏။ မျက်စောင်းထိုး အနေအထားမှာ ရှိနှင့်သော ကျောင်းကြီးကိုကြည့်ပြီး ကိုစိုင်းက ကောက်ကာငင်ကာ ကဗျာဆပ်ဆိုသည်။

တည်ရှိနေသော ကျောင်းမျက်နှာစာ။
ခန့်ညားထည်ဝါခြင်းတွေက လွင်ပြာပြာလေး။
မိတ္ထီလာ တက္ကသိုလ်ဟု ရေးဖော်ထားခြင်းမှာ
မကြာမီ ကျွန်တော်တို့တွေ ထိုအရပ်ကို
ခြေချတော့မည်။

ကိုစိုင်း၏ ဖွဲ့ဆိုခြင်းမှာ ကျွန်တော်ကလည်းထပ်တိုး ဖွဲ့ဆိုပေးလိုက်၏။

အသွားကြိုဆို /နှုတ်ဆက်ဝမ်းနည်းမှာ
ရေတမာ/ကံ့ကော် / ကုက္ကိုလ် သင်တို့ကကော
ကြိုင်လှိုင်နေမည်လား။
အို--!ပ
အသွားကြိုဆို /နှုတ်ဆက်ဝမ်းနည်းမှာ
ရေတမာ/ကံ့ကော် / ကုက္ကိုလ် သင်တို့ကကော
ကြိုင်လှိုင်နေမည်လား။
အို--!ပြောကြစမ်းပါလေ

မြင်နေရသော ကုက္ကိုလ်ပင်ကြီးကိုကြည့်ပြီး အမေးစကားလည်း ဆိုမိ၏။ ခြေမချရသေးသည့် ကျောင်းပရဝုဏ်မှာ ဘယ်အရပ် ဘာရှိမှန်းမသိ။စိတ်ကူးနှင့် ဖွဲ့ဆိုလိုက်ခြင်းမှာ ဖတ်ဖူးသော ဝတ္ထုများနည်းတူ ရေတမာ၊ ကံ့ကော် ဟုတော့ စပ်ဆိုလိုက်၏။

နေလည်းဝင်၊ မိုးလည်းချုပ်မှာ ကျွန်တော်ရော၊ ကိုစိုင်းပါ ပန်းလာကြရ၍ အိပ်စက်လိုက်ကြ၏။ အဆောင်တူ၊အခန်းပါတူပြီး ကြိုငှားထား၍ အခန်းကလည်း အဆင်ပြေသည်။ နှစ်လတက် ရမည် ဆိုပေမယ့်လည်း ကျောင်းရှေ့ အဆောင်ဖြစ်ပြီး ကျောင်းနှင့် နီး၍ အဆင်ပြေသည်။ နှစ်လဆိုမှ ကျွန်တော်က အဝေးသင်လေ။ စာပေးစာယူ ဖြစ်သည့် ကျွန်တော့်မှာ မိမိ၏ ဆုံးဖြတ်ချက်အတိုင်း အဝေးသင်လျှောက်ခြင်းပင်။ ကိုစိုင်းကတော့ အလုပ်ရှိ၍ ပထမ ကတည်းက အဝေးသင်ပဲလျှောက်ခဲ့သည်။

"တက္ကသိုလ်ဆိုတာ အချိန်ပြည့်စာတွေလေ့လာနေမှ၊ မျက်မှန် မှန်ဘီလူးလောက် တပ်ပြီး စာအုပ်ကိုင်နေမှ လူအထင်ကြီးတာ မဟုတ်ဘူး၊ ပညာလည်းရှာ၊ သညာလည်းရှာ၊ စာအုပ်ကပေးတဲ့ စာကိုသာ မင်းလေ့လာရင် ပညာတွေပဲရမယ်၊ မင်းမှာ သညာရှိမှာ မဟုတ်ဘူး၊ ဘဝကပေးတဲ့ သင်ခန်းစာတွေကိုလည်း ပညာ

တစ်ခုလို မင်းလှေ့လာရမယ်၊ ထိုထဲမှာ မင်းစိတ်ကို လှုပ်ခတ်မယ့် အပျော်၊အဆွေး၊ဝမ်းသာ၊ဝမ်းနည်း၊ အစရှိသည်ပေါ့ကွာ၊ အဆုံပါ လိမ့်မယ်၊ မင်းကူးခတ်နေရင်း မြုပ်လိုက်၊ ပေါ်လိုက်နဲ့ ဖြစ်နေတဲ့ အချိန်မှာ အချစ်ဆိုတဲ့ ကျွန်းမှာတော့ မနားမိစေနဲ့၊ စုပ်ယူ နက်ရှိုင်းပြီး အမြစ်တွယ်လွန်းအားကြီးတဲ့ နှလုံးသားနယ်ပါယ်ဟာ အရောင်ဆိုးဖို့ကလည်း သိပ်ကို လွယ်လွန်းလှတယ်၊ ဒါကြောင့် မင်း မနားမိစေနဲ့၊ နားမိပြီလား --? အိမ်း--! ဖေဖေ့လို ဒီသံသရာကြီးမှာ သား၊ သမီးတွေနဲ့ ကျင်လည်သွားရတော့မှာ"

ထိုစကားများဟာ ကျွန်တော်ကျောင်းကို လာမည့် ရက်မတိုင်ခင် က ပြောခဲ့သော ဖေဖေ၏ စကားလုံးများသာ၊ ဆုံးမခြင်းမဟုတ်ပဲ စကားလုံးနှင့် အသိပေးခြင်းတွေမှာ ကျွန်တော် ဖေဖေ့ခြေရာ မနင်းတာကို ဖေဖေ စိတ်မကောင်းဖြစ်နေ၏၊ ဒါကို ကျွန်တော်က လည်း သိသည်။ အရင်းခံခြင်းမပါဝင်တဲ့ ဝါသနာမှာ ကျွန်တော် ဖေဖေ၏ ခြေရာကို မနင်းနိုင်ခဲ့၊ စော်ဘွားတွေ တက်ရောက်ကြ သည့် အောက်စဖို့ဒ်တို့၊ ကမ်းဘရင့်ဂျ်ဒ်တို့ ကျွန်တော်မသွားတာကို ဖေဖေ စိတ်မကောင်း၊ ဖေဖေက တော်ရှာ၏။ ကျွန်တော့်စိတ် အနည်မထိုင်သွားအောင် အပြုအမူနှင့်ပင် ဖြစ်စေ၊ စကားလုံးနှင့်

ပင်ဖြစ်စေ မည်သောအခါမှ ဆိုစကားမပြု။ သိနေတဲ့ ကျွန်တော်၏ စိတ်အစုံကတော့ ဖေဖေ့အတွက် စိတ်မကောင်းမိ၊ တစ်ခါတစ်လေ တော့လည်း မြောက်ပိုင်းစော်ဘွား၏ သားတော်နှစ်ပါးကို ကျွန်တော် တိတ်တိတ်လေး အားကျ၏။ ဖေဖေလည်း ကျွန်တော့် လို မြောက်ပိုင်းစော်ဘွားကို အားကျမည်ပဲ။ အဖေ၏ ခြေရာနင်းပြီး သတ္တုတူးဖော်သည့် ဘာသာရပ်ကို အောက်စဖို့ဒ်မှာ လေ့လာနေ ကြသည့် ညီအစ်ကို နှစ်ဦး။ ရုပ်မြင်ဖူးခြင်းမရှိခဲ့ပေမယ့် ကြားရတဲ့ သတင်းတွေကတော့ မွေး၏။ ဟုတ်၏၊ မဟုတ်၏ မသေချာသော ကောလဟာလများမှာ မင်းသားငယ်လေးက ကျွန်တော်နှင့် ရွယ်တူဟုလည်း ကြားသိရ၏။ နောက်တစ်ခုက မင်းသားငယ် လေးမှာ ငယ်စဉ်ထဲက ထိုစော်ဘွားနှင့် အတူ မနေဘူးဆိုသည့် ထိုသတင်းတွေ မည်သို့ပင် ထွက်နေပါစေ မြောက်ပိုင်းစော်ဘွား ကတော့ ရှင်းလင်းခြင်းမရှိပဲ နေမြဲအတိုင်းသာ နေပါ၏။ နောက် တော့ ထိုသတင်းတွေလည်း ပျောက်သွားသည်ပဲလေ။

ဖေဖေ့အကြောင်း တွေးရင်းနှင့်ပင် ကျွန်တော် မြောက်ပိုင်း စော်ဘွား နှင့် သူ၏ သားတော်နှစ်ပါးစီ ရောက်သွား၏။ ကဲ--! ထားပါလေ။ ဒါတွေက ကျွန်တော်နှင့်မှမဆိုင်ဘဲ။

အဆောင်သို့ရောက်ပြီး ဒုတိယရက်။

ပထမရက်က ရောက်စဖြစ်၍ ကျွန်တော်ရော ကိုစိုင်းပါ နားလိုက်ကြသည်။ ဒုတိယရက်ရောက်ရှိလာသည့် နေ့မှာတော့ ကျွန်တော်နှင့် ကိုစိုင်း တတ်ကြွစွာရှိရင်း စာသင်ဝိုင်းသို့ သွားဖို့ပြင်ကြ၏။

မနက်လင်းကတည်းက အောင့်သက်သက်နှင့် ရှိနေသည့် ဝမ်းဗိုက်ကြောင့် ကျွန်တော် နောက်ဖေးနှင့် မခွဲနိုင်မခွာရက်ဖြစ်နေရသည်။ အားလုံးပြီးစီးမှ စာသင်ဝိုင်းသို့ ပြန်လာလိုက်၏။ မျက်ဝန်းထဲ ရှိလာသည့် မြင်ကွင်းတွေမှာ ကျွန်တော် အံ့သြရင်း စာသင်ဝိုင်း၏ ခုံသို့တန်းပြေးတော့သည်။ ကိုစိုင်းတစ်ယောက် စကားတွေပြောနေသည်လေ။

"ဗိုက်အောင့်သေးလား ခွန်စဝ်။ အဆင်ရောပြေရဲ့လား။ "

အောင့်သက်သက်စိတ်ကို ဖုံးကွယ်ရင်း ကျွန်တော့်ကို စိုးရိမ်စကားမေးနေသည့် ကိုစိုင်း၊ ဟုတ်မှာ ကျွန်တော်က စာသင်ဝိုင်း၏ အိမ်သာနှင့် မခွဲနိုင်မခွာရက်ဖြစ်နေသည်လေ။

"ပြေပါတယ်။ ကိုစိုင်းရဲ့ ---!။ ဗိုက်လေး နည်းနည်းအောင့်ရုံပဲ"

"အဆင်ပြေမှလည်းပြော။ မင်းဟာက သွားလိုက်တာလည်း အကြာကြီး။ သွားလိုက် လာလိုက်နဲ့ ။ တကယ်ရော အဆင်ပြေ ရဲ့လား"

"ပြေပါတယ်ဗျာ--!"

ကိုစိုင်းနှင့် မြန်မြန်စကားဖြတ်ရင်း အစောက ကိစ္စကို ဦးတည်ချင်သည့် ကျွန်တော့်မှာ ဘေး၌ရှိနေသော အညိုဆင်လေးကို အကြည့်ပို့လိုက်၏။ ထိုအညိုဆင်လေးမှာ ကျွန်တော်နှင့် ကိုစိုင်း၏ စကားများကို ကြားရင်း နားကြားပြင်းကပ်သွားဟန် တူပါရဲ့။ ခေါင်းကိုသာ ငုံ့ထားတော့၏။

"ဟော့--! ဟော--! ကောင်လေး"

ကျွန်တော်ခေါ်တော့ ထိုအညိုဆင်လေးက ကျွန်တော့်ကို တစ်ချက်ကြည့်ပြီး သူ့ကို ခေါ်တာလားဟု မေးလာ၏။

"နှစ်ယောက်မရှိနိုင်တဲ့ တည်ရှိခြင်းမှာ မင်းကို ခေါ်တာပေါ့ သူငယ်ချင်းရဲ့"

ထိုမှ ထိုကောင်လေးက ပြုံးလာပြီး ကျွန်တော့်ကို သူ့အမည် မိတ်ဆက်ရင်း ကိုစိုင်းနှင့်လည်း မိတ်ဆက်၏။ မှားမည့်ဟန် မရှိသည့် ကျွန်တော်၏ ထင်မြင်ယူဆခြင်းတွေမှာ ထိုကောင်လေး က အညာသား ၊ အညိုဆင်လေးပင်။

"ငါက မင်းခက်ထန်။ ဒဿနိက အထူးပြုယူထားတယ်။ ပထမနှစ်ကပဲ။ မိတ္ထီလာသား"

ဒီလိုနှင့် ကျွန်တော်တို့၏ မိတ်ဆက်ခြင်းပြီးသွားခဲ့ပြီး တစ်ဖွဲ့ဖွဲ့နှင့် ရောက်လာကြသည့် ကျောင်းသား/သူများကြောင့် ကျွန်တော်တို့ လည်း မျက်လုံးပြူးရ၏။ နောက်မှ သိရသည်က ပထမနှစ်ဆို အထူးပြုတွေသာ ကွဲပြီး အခြား ဘာသာရပ်တွေမှာ တူညီကျ သည်ဆိုတာကိုပင်။

ဒါကြောင့် ပထမနှစ်အားလုံး ရောက်နေကြခြင်း။

ရယ်စရာများနှင့် စတင်ခဲ့သည့် ပထမရက်မှာ ကျောင်း၏ ကျောင်းပျော်ကြီးတွေနှင့်ပါ သိကျွမ်းခဲ့ရ၏။ ဒီအတန်း/ဒီခုံ /ဒီဆရာ မပြောင်းကြသည့် ကျောင်းပျော်ကြီးတွေမှာ ပထမနှစ်ပင် သုံးနှစ် ရှိပြီဖြစ်၏။ အချို့ကပိုပြီး ဝါရင့်ကာ လေး/ငါးနှစ် သမားများပင်

ပါ၏။ ဒီထက် ကျွန်တော်နှင့် မင်းခက်က အထူးပြုဘာသာရပ်တူ၍ ကျွန်တော်ရော မင်းခက်ပါ ဝမ်းသာနေကြ၏။ ပြောသာပြောနေ တာ ကျွန်တော့်အမည်ကို မိတ်မဆက်ရသေးဘူးမလား။

"ခွန်စဝ်လက်ာ ပထမနှစ် ။ ဒဿနိက အထူးပြု။ နေရပ် ရှမ်းပြည် တောင်ပိုင်း တောင်ကြီးမြို့"

ဒါက ကျွန်တော့် အမည်နှင့်ဘာသာရပ်ပင်ဖြစ်၏။

နောက်ကျွန်တော်တို့အဖွဲ့ သူငယ်ချင်းတစ်ဦးလည်း ထပ်ရရှိလိုက် သေး၏။ တစ်မနက်အတွင်း ခင်မင်သွားသည့် မင်းခက်၏ ဖိတ်ကြားချက်နှင့်အတူ ကျွန်တော်တို့ လ္ဘက်ရည်ဆိုင် ထိုင်ကြ၏။ ထိုမှ ဒုက္ခနှင့် လှလှက တွေ့လေ၏။ စာသင်ဝိုင်းအနီးနား ဖွင့်ထားသည့် ဆိုင်ဖြစ်၍ အသီးသီးဆင်းကြသည့် အချိန်တွေမှာ လ္ဘက်ရည်ဆိုင်လည်း လူပြည့်နေ၏။ လူရည်လည်ဒီမြို့သားဖြစ်သည့် မင်းခက်ကပဲ ဦးဆောင်ရင်း ကျွန်တော်တို့ကို စားပွဲဝိုင်းတစ်ခုနှင့် သွားပေါင်းခိုင်း၏။ ပေါင်းသည့် ဝိုင်းကပါ ရွှယ်တူ /အတန်းတူ ဖြစ်နေ၍ ကျွန်တော်တို့အဖွဲ့ ပိုအဆင်ပြေသွားကြ၏။ ထပ်တိုး ရလာသည့် သူငယ်ချင်းက ဒီအရပ်သားတော့မဟုတ်။

မထူမပြစ် မျက်ခုံးများနှင့် ကိုယ်နေဟန် ပြေပြစ်သည့် ထိုသူ။ ခန္တာဖွဲ့စည်းပုံလည်း ပြေပြစ်ပြီးမသိလျှင် ဆရာတစ်ဦး အသွင်ရှိသည့် သူက ပထမနှစ်ကျောင်းသား။ ကျွန်တော့်တို့နည်းတူပင်။ အညိုဆင်တော့မဟုတ်တန်ရာ အဖြူဘက်ကြီးလဲပါမနေ။ ဝါကျင်ကျင်ဘက် ပါ၏။

"ငါက ဘုဏ်းမြတ်ကျော်သူ။ စိတ်ပညာအထူးပြုယူထားတယ်။ ပထမနှစ်ပဲ ။ မန္တလေးက"

နှစ်ခြင်းတူရုံမကပဲ အဆောင်ပါ တူနေသည့် ဘုဏ်းမြတ် နှင့် ကျွန်တော်တို့နှစ်ဦး။ ဝမ်းသာကြသည့် စိတ်အစုံမှာ ကျွန်တော်/ ကိုစိုင်းနှင့် ဘုဏ်းမြတ်ပါ ဝမ်းသာကြ၏။ မင်းခက် ကတော့ ဒီမြို့သားဖြစ်၍ ဖီးစင့်စက်ဘီးစီးပြီးသာ ကျောင်းနှင့် အိမ်ကို ကူး၏။ ထို့အပျော်များဟာလည်း ကျွန်တော်တို့ အခန်းကို မြင်ပြီး လိုက်သည့် အချိန်မှာတော့ ရှိမနေတော့ချေ။ အခန်းမတူသည့် ဘုဏ်းမြတ်ကတော့ နေ့တစ်ပိုင်းထဲနှင့်ပင် ပန်းသည်ဆိုပြီး သူ၏ အဆောင်ခန်းထဲသို့ ဝင်သွားလေ၏။

ရုတ်တရက် မြင်တွေ့လိုက်ရခြင်းမှာ ကျွန်တော် အံ့သြရင်း ကိုစိုင်းကို ပြုမိ၏။ ထိုအခါ ကိုစိုင်းနှင့် ထိုသူ တစ်ပြန်တစ်လဲ ပြောရင်းနှင့် ကိုစိုင်းက အဆောင်ရှင် ခေါ်မည်ဆိုပြီး ထွက်သွား၏။

အေးအေးလူလူပင် ရှိနေသည့် ထိုသူမှာ ကျွန်တော့်ကို ကြည့်ပြီး ဆိုလာသည်က စကားလုံးမြောက်များစွာ။ တိုးကပ်လာသည့် ထိုသူ၏ ခန္ဓာအစိတ်အပိုင်းများနှင့် အသွင်သဏ္ဌာန်မှာ ကျွန်တော် ထိုသူ့ကို မမှတ်မိခဲ့ပေ။

"ဝေးကွာ ၊ခွဲခြား ပြန်မဆုံခဲ့သော

လမ်စလေးတစ်ခု။

ကြောက်ရွံ့နေချိန်မှာ အနွေးဓါတ်ပေးသူ။

ဆိုးထိတ်နေချိန်မှာ ကာကွယ်ပေးသူ။

ပျော်ဝင်သွားသည့် သကြားများနည်းတူ

မင်း ကျုပ်ကို ပျော်ဝင်မေ့ပျောက်သွားပြီမလားတဲ့"။

အစပ်အဆက် မရှိသည့် စကားလုံးများစွာမှာ ကျွန်တော် အစပ်အဆက်မရှိရင်း ထိုသူ့စကားများကို နားမလည်နိုင်ပါ။ ကျွန်တော်ကြောင်ပြီးသာ ကြည့်နေမိ၏။ ပိုထူးခြားနေသည်က

ထိုသူ့၏ ကြည်ပြာရောင် မျက်ဝန်းများစွာကိုပင်။ ကျွန်တော် မှတ်မိနေသည်။ ဒီကြည်ပြာရောင် မျက်ဝန်းများစွာကို သိသည်။ သို့သော် ကျွန်တော် ထိုသူ့ကိုတော့မသိ။

"မင်း ဘယ်သူလဲ"

"ရင်းနှီးခြင်း။

သိကျွမ်းခြင်း။

သိကျွမ်း ရင်းနှီးဖို့အတွက် သံယောဇဉ်တွေ လိုအပ်သလား။ သံယောဇဉ် မရှိတဲ့ သိကျွမ်းခြင်းမှာ ထာဝရထိ ရင်းနှီးဖို့ရော မဖြစ်နိုင်ဘူးလား။ ကျုပ်ရဲ့ တစ်သီးတစ်သန့် ရှိနေမယ့် မိတ်ဆွေလေး"

ထိုထိ ကျွန်တော် မသိသေးပါ။ ကျွန်တော် ထိုသူ၏ ကြည်ပြာရောင် မျက်ဝန်းအစုံကိုပင် စူးစိုက်ကြည့်နေတုန်း။

"သကာစွတ်မှ ချိုမြတဲ့ အရသာ။
မူရင်း အရသာက ဆိမ့်တယ်။

ပေါင်းစပ် ရောချလိုက်တဲ့ စပ်ဟပ်ခြင်းမှာ

ထိုအရသာက ခေါ်ပုပ်သကြားစမ်း"

"ကဲ---! ဒီလောက်ဆို မှတ်မိရောပေါ့ ။

ကျုပ်ရဲ့ မိတ်ဆွေလေး--"

"တစ်ခါစားဖူးတဲ့ ခေါပုပ်ကြော်လေးတွေကတော့ ပြောနေကြပြီ။ မင်းကို ကျွေးခဲ့တဲ့ ပိုင်ရှင်ကမှ မမှတ်မိတာ မင်း ဘာအတွက် စကားတွေရှည်နေတာလဲတဲ့"

"ရှည်မယ့် စကားတွေ အလိုမှာ မိတ်ဆွေကိုတော့ ဒီစကားတွေ ကျုပ်မှတ်မိစေချင်ပါရဲ့။ ကျုပ်ရဲ့ တစ်ခါက ခေါပုပ်ကြော်ပိုင်ရှင် လေးရယ်"



လက်သွားသည့် ကျွန်တော်၏ မျက်ဝန်းများနှင့်အတူ ကျွန်တော် ထိုသူ့ကို ဖက်ထားမိလိုက်သည်။ မဆုံခဲ့သည့် နှစ်တွေ ကြာသွား ခြင်းမှာ ကျွန်တော်၏ မိတ်ဆွေလေးကိုပင် ကျွန်တော်မမှတ်မိ တော့။ ထိုသူဟာ လွန်ခဲ့သော ခြောက်နှစ် ဘော်စကြို ဘုရားပွဲ သွားတုန်းက ကျွန်တော်တွေ့ဆုံသိကျွမ်းခဲ့ရသော ကျွန်တော်၏ မိတ်ဆွေပင်ဖြစ်၏။

ပထမနှစ် အဝေးသင်နှစ်လမှာ ကျွန်တော်တို့ များစွာသော အချိန်တွေ ကုန်ဆုံးခဲ့ကြပြီ။ တက္ကသိုလ် အနောက်ပိုင်း၌ရှိ နာမည်ကြီး "ကေရီဆောင် "ဟူသော အလှပဂေးများ ရှိရာ အဆောင်စီသို့ပင် ကျွန်တော်တို့ ဂစ်တာတစ်လက်နှင့် သွားရောက် ဖျော်ဖြေခဲ့ပြီးပြီ။ အကြိမ်အရေအတွက်ဆိုတာကလည်း ဘယ်နှစ် ခေါက်မှန်းပင် မသိတော့။ အဆိုတော်သည့် မင်းခက်နှင့် ဘုဏ်းမြတ်ရှိ၍ ကျွန်တော်တို့အဖွဲ့က အခြားမောင်တွေ ဖြစ်ကြ သည့် ကိုညှောင်ညို အဖွဲ့များကို အေးဆေးကျော်နိုင်၏။ ကျွန်တော်ကလည်း အဆိုတော်သည်လေ။ အနေအေးသည့် ကိုစိုင်းပင် သီချင်းသံကြားလျှင် အနည်းငယ် ဆိုစပြုပေမယ့် ကျွန်တော်၏ မိတ်ဆွေမှာတော့ အနည်းအကျဉ်းမှပင် မဆို။ ပြောင်းလဲ ကုန်ဆုံးသွားသည့် ရက်များမှာ ကျွန်တော်၏ မိတ်ဆွေကလည်း ကျွန်တော်တို့နှင့် အဖွဲ့ကြလာခဲ့ပြီ။

အဆောင်တူပြီး ကျွန်တော်နှင့် အခန်းပါ တူသွားသည့် ကျွန်တော် ၏ မိတ်ဆွေမှာ အဆောင်မှူးနှင့်လည်း မည်သို့ ရေလည်ထားသည် လည်းတော့ မသိချေ။ သို့ရာတွင် ကိုစိုင်းမှာ ဘုဏ်းမြတ်နှင့် အခန်းတူသွားပြီး ကျွန်တော်က ကျွန်တော်၏ မိတ်ဆွေနှင့်

အခန်းတူသွား၏။ အခန်းကလည်း နှစ်ယောက်ခန်းလေ။ စရွေ့ခါစ ကတော့ ကိုစိုင်းလည်း ရှုးရှုးရှဲရှဲဖြစ်၏။ နောက်မှ ကိုစိုင်းနှင့် ဘာသာရပ် တူသည့် ကျွန်တော်၏ မိတ်ဆွေမှာ အဆင်ပြေသွား ကြသည်။ ဒါကလည်း ရေလည်ကြရုံသာ။ နောက်မှ သိရသည်က ကျွန်တော့်မိတ်ဆွေကလည်း ကျွန်တော်တို့နှင့် အရပ်တူသည်တဲ့။ နေရပ်တော့ မတူကြ။ သူက မြောက်ပိုင်းသား။

"ကျုပ်အမည် လူးကပ်(စ်)ဂျူဝါးလား ။ ပထမနှစ် ။ ဥပဒေ အထူးပြုယူထားတယ်။ ရှမ်းပြည် သိန္နီ ဇာတိ"

ထိုစကားနှင့်အတူ ကိုစိုင်းကလည်း မခံမရပ်နိုင်ပြန်လည်ချေပ၏။ အဲ့ဒီအချိန်က တကယ့်ကို တရားခွင် ရောက်နေသလိုပင်။ အစိုးရ ရှေ့နေနှင့် အပြင်ရှေ့နေ တရားခွင် မှာ fight ကြတဲ့အတိုင်း။ ခင်ဗျားတို့ကို မြင်လိုက်စေချင်ရဲ့ဗျာ။

"ကိုယ်က စိုင်းဖီဖွန်းသျှိန်။ ပထမနှစ် ။ အထူးပြုက မင်းလိုပဲ ဥပဒေ။ အနာဂါတ်မှာ အစိုးရရှေ့နေ တစ်ဦးဖြစ်ဖို့ ကြိုးစားနေ တယ်။ ဇာတိက တောင်ပိုင်း လက်ရှိတော့ လင်းခေး"

ကိုစိုင်းက ကျွန်တော်တို့တစ်ဖွဲ့လုံးတွင် အကြီးဆုံး။ ထို့ကြောင့် ကိုစိုင်းက သူ့ကို လူးကပ်(စ်)ရိုသေစေချင်တာ အဆန်းတော့ ဖြစ်မနေ။ သို့သော် လူးကပ်(စ်)ကတော့ ရိုသေဖို့နေနေသာသာ စကားပြောလျှင်ပင် ကျုပ်/ကျုပ်နှင့်သာ သုံး၏။ အစကနဦး အဆင်မပြေကြပေမယ့် နောက်တော့ သူတို့နှစ်ဦးလည်း ပြေသွားသည် ထင်ပါ၏။ လက်ရှိတွင်တော့ ပြေလည်နေတာပဲ မြင်၏။

ကျွန်တော်တို့အဖွဲ့ထဲ ထပ်တိုးလာကြသော သူငယ်ချင်းများကို လည်း ကျွန်တော်ပြောရအုံးမည်။ လှသွေးကြွယ်ပြီး ရှိနှင့်သော သူမတို့နှစ်ဦးမှာ ကျွန်တော်တို့ အဖွဲ့ထဲသို့ ရောက်လာပုံကလည်း ဆန်းကျယ်၏။ ကျွန်တော်တို့အဖွဲ့ ကေရီအဆောင်သို့ လူပျို လှည့်ကြ၏။ အဆိုကျော်သည့် ကျွန်တော်တို့ အဖွဲ့ကို သတိထားမိသည့် ပျိုတွေမှာ ကျွန်တော်တို့ကို သိကျွမ်းချင်ကြ၏။ ထိုထဲ အင်္ဂလိပ်စာ အထူးပြုက ဝါဝင်းအဆင်းနှင့် ရှိလေတဲ့ ပျိုပျိုမြ တစ်ဦးလည်း ပါပေ၏။

နယ်ဇာတိဖြစ်ပြီး ရိုးသားတဲ့ တောသူတောင်သား တစ်ဦးဖြစ်သည့် ထိုမဒီချောလေးမှာ ကျွန်တော်တို့ကို ခင်ဖို့ တစ်စုံတစ်ဦးကိုတော့ ကြောက်ရွံ့ဟန်ရှိ၏။

ထို့နေ့ကို ကျွန်တော်မေ့မည်မဟုတ်။

အဲ့နေ့က မှတ်မှတ်ရရ ကျွန်တော်တို့ "ကေရီဆောင်" သို့ ပထမဆုံးသွားသည့်ရက်။ အဆိုတော်သည့် ကျွန်တော်တို့အဖွဲ့ကို မဒီပျိုတွေ ခင်ချင်ကြ၏။ သိကျွမ်းချင်ကြ၏။ ရင်းနှီးချင်ကြ၏။ သို့သော် တစ်စုံတစ်ဦးမှာတော့ထိုထဲ၌ ပါမနေချေ။ လူရည်လည်ပြီး ပါးစပ်ဆော့သည့် မင်းခက်နှင့် ဘုဏ်းမြတ်က ထိုအလှပဂေးလေးကို ပိုးကြသည်။ ဘုဏ်းမြတ် ပိုးတာကတော့ အခြားပါလေ။ ထားပါ။ ဒါက နောက်မှ ပြောမည်။ သို့သော် မင်းခက် ပိုး၍ ဘုဏ်းမြတ်နှင့် ကျွန်တော်ပါ ထိုမဒီလေးကို ပိုးကြ၏။ စချင်/နောက်ချင်စိတ်နှင့် ပိုးသည့် မင်းခက်မှာ အမှန်ပင် သမီးရည်းစားစိတ်ရှိမနေပါ။ သို့ပေမယ့်အဖြစ်အပျက်များက မြန်ဆွန်လွန်းစွာဖြင့် မဒီတစ်ဦး ကျွန်တော်တို့စီသို့ ဆိုက်မြိုက်စွာ ရောက်ရှိလာခဲ့၏။

သူမကထက်မြက်သည်။ ခါးထိ ရှည်လျားသည့် ဆံသားရှည်များကို ပိုင်ဆိုင်ထားပြီး အသားအရည်ကလည်း လှတဲ့ဘက်ပါ၏။ ဖြူဖွေးဖွေးမဟုတ် ဝါကျင်ကျင် မဟုတ်သောသူမမှာ ပါးလေးတွေ

ဆိုလျှင် ပန်းသွေးရောင်ထနေ၏။မင်းခက်နှင့် ပြောရင်းဆိုရင်းပင် ရင်းနှီိးသွားကြပြီး ကျွန်တော်တို့နှင့်ပါ သူမရင်းနှီးသွားခဲ့၏။

အရှုတ်အနှောက် သန်သည့် မင်းခက်နှင့် သူမ အဆင်ပြေဖို့ ကျွန်တော်တို့တွေ ကြားဝင်ခဲ့တာတွေလည်း ရှိတာပေါ့လေ။ ဒါတွေပြောလျှင် မပြီးတော့ရျှ် ကျွန်တော် ဒီနေရာမှာ ဖြတ်လိုက်မည်။ စောစောကအကြောင်း ဆက်ကြတာပေါ့။

ရင်းနှီးတာထက် ပိုနေသော သူမ၏မေတ္တာရိပ်တွေမှာ မဒီချော လေးကိုတော့ သူမ အတိုင်းအထက်အလွန်ကာကွယ်၏။ ကိုစိုင်းစီမှ သူမအကြောင်း ထပ်ကြားသိလိုက်ရချိန်မှာတော့ သူမ ထက်မြက် သည်ဆိုတာ စကားနှင့်မဟုတ်ပဲ လက်တွေ့ပါ၏ဟု ကျွန်တော်တို့ သိရှိလာခဲ့တော့၏။ ဘာလို့ဆို ကိုစိုင်း/လူကပ်(စ်)နှင့် သူမက အထူးပြုဘာသာရပ်တွေ တူညီကြသည်တဲ့။

စစ်ကိုင်းဇာတိဖြစ်သောသူမ။

စူးရဲသော သိမ်းငှက် တစ်ကောင်၏ မျက်ဝန်းတွေပိုင်ဆိုင် ထားသည့်သူမ။ သူမမှာ ငွေနှင်းမှုံအတွက်ဆိုလျှင် အရာရာဟာ ပြည့်စုံသည့်အလား။ ဟုတ်ပါသည်။ သူမ ငွေနှင်းမှုံဟုခေါ်သော

"ကေရီဆောင်" ၏ အလှပဂေးလေးကိုဆိုလျှင် အတိုင်းအထက် အလွန်ကာကွယ်ပါ၏၊ အကြောင်းပြချက်တော့ ကျွန်တော်လည်း မသိပါ။ သူမသာသိပေလိမ့်မည်။

"တို့က ဝဿန်ဇူးမောင်။

ဥပဒေအထူးပြုယူထားတယ်။ အနာဂါတ် plan ကတော့ justice ကို ခုတုံးလုပ်ပြီး လက်ဝါးကြီး အုပ်ထားသူတွေကို တွန်းလှန်ဖို့ပဲ။ ဥပဒေအထူးပြုက။ ပထမနှစ်ပဲ။ စစ်ကိုင်းမှာမွေးတာ မဟုတ်ပေမယ့် စစ်ကိုင်းဇာတိလို့ ပြောလို့ရတယ်။ လက်ရှိတော့ စစ်ကိုင်းမှာပဲ"

"သူမက တို့သူငယ်ချင်း ငွေနှင်းမှုံ။ အင်္ဂလိပ်စာ အထူးပြုက။ တို့တွေနဲ့ အတူတူပဲ ပထမနှစ်။ ဇာတိက ရမည်းသင်းမြို့ / ရွာတန်းတဲ့"

ယတိပြတ် မိတ်ဆက်လာပြီး သူငယ်ချင်း ဖြစ်သွားကြသည့် ကျွန်တော်တို့အဖွဲ့နှင့် သူမတို့နှစ်ဦး။ အထူးပြုတူကြ၍ ကျွန်တော် နှင့် မင်းခက်က ကျောင်းအဆောင်လည်းတူ၏။ ကိုစိုင်း/

လူးကပ်(စ်) နှင့် ဇူးဇူး(ဝဿန်ဇူးမောင်ပါ။ ကျွန်တော်တို့က သူမ၏ ငယ်အမည် ဇူးဇူးဟုခေါ်သည်။ သူမ၏ အမည်က ရှည်သည်လေ။)

သူတို့က အထူးပြုတူကြသလို ကျောင်းအဆောင်လည်း တူကြ၏။ မတူသည်က ငွေနှင်းမှုံပင်။(သူမကိုတော့ ကျွန်တော်တို့အဖွဲ့က ငွေနှင်းဟု ခေါ်သည်။ ဇူးဇူးကတော့ တစ်ဦးထဲ ခွင်းချက်ရှိစွာနှင့် မှုံဟု ခေါ်၏။) အင်္ဂလိပ်အထူးပြုဖြစ်သည့် သူမ၏ အဆောင်က ကျွန်တော်တို့အဆောင်နှင့် ခပ်လှန်းလှန်းမှာ ရှိ၏။ ထိုအတွက်နှင့် ဇူးဇူးမှာ ငွေနှင်းမှုံ၏ ကျောင်းအဆောင်အသွား/အပြန်တွင် မိဘတစ်ဦးလို အမြဲကြို၏။ ဒါက အဝေးသင်တွေတက်ရသည့် အနီးကပ်ဆယ်ရက်မလို့သာ။ နေ့ကျောင်းသမားတွေလို နေ့တိုင်း ဆိုလျှင် ဇူးဇူးမလွယ်။ ဒါက ကျွန်တော့်ထင်မြင်ချင်ပါ။ ဇူးဇူးက တော့ ငွေနှင်းကို အကြိုအပို့ လုပ်ရရ၍ ပင်ပန်းသည်ဆိုတာကိုမပြ။ အမြဲရွှင်လန်းနေ၏။

ထိုထဲ စိတ်ဝေဒနာရှင်။ အဲ--! မှားလို့။

စိတ်ဝေဒနာရှင်ဆိုသော စကားမှာ မင်းခက်စီမှ ထွက်လာသော စကားပင်။ ဒီကောင် ထွင်လိုက်ခြင်းဆိုလည်း မမှားပေ။ စိတ်ပညာ

အထူးပြုယူထားသည့် ဘုဏ်းမြတ်ကို နောက်ချင်၍ မင်းခက်က စိတ်ဝေဒနာရှင်ဟု ခေါ်၏။

စိတ်ပညာအထူးပြုယူထားသည့် ဘုဏ်းမြတ်၏ စိတ်ပညာ အဆောင်မှာလည်း ကျွန်တော်တို့ အဆောင်နှင့် အနီးတွင်သာ ရှိ၏။ ကျောင်းတည်ဆောက်သည့် ပုံပန်းသဏ္ဍာန်က ဒီလိုပင်။ ကျွန်တော်တို့ ဒဿနိက အဆောင်က နောက်ဆုံးကျမည်။ ကျွန်တော်တို့ အဆောင်နောက်တွင် ကန်တင်းများသာရှိတော့၏။ ကျွန်တော်တို့ အဆောင်၏ အရှေ့တည့်တည့်တွင် ဥပဒေအဆောင် နှင့် စိတ်ပညာအဆောင်ရှိ၏။ ထို့ကြောင့် ကျွန်တော်တို့အဖွဲ့ထဲမှ ငွေနှင်းမှုံမှ လွဲ၍ ကျန်သူများမှာ ကျောင်းအဆောင်နီး၏။

တက္ကသိုလ်အကျောင်းပြောလျှင် ဘုဏ်းမြတ်အကြောင်းက မပါ မဖြစ်ပေ။ ဒီကောင်က လူကသား မန္တလာသား။ ကြိုက်တော့ မန္တလာတောင်ပေါ်က မျှော်ကြည့်မှ မြင်နိုင်ရမယ့် ရှမ်းတောင်း တန်းကို။ အဲ့လို သူ့အကြိုက်က ထူးခြား၏။ ရှမ်းတောင်တန်းဆို၍ တောင်တွေကို သဘောကျသူတော့ ဟုတ်မနေ။ ရှမ်းမဒီလေးကို သဘောကျ၍ ကျွန်တော်က ရှမ်းတောင်တန်းဟု တင်စားလိုက် ခြင်း စ်၏။ သူမက ကျွန်တော်နှင့် ကိုစိုင်းလို တောင်ပိုင်းက

မဟုတ်ခဲ့။ လူးကပ်(စ်)နှင့် အရပ်တူသည့် မြောက်ပိုင်းကပင်။ ဇာတိတွေတော့မတူကြ။ လူးကပ်(စ်)က သိန္နီဇာတိဖြစ်ပြီး သူမက သီပေါဇာတိပင်။ ဘုဏ်းမြတ် "ဧကရီဆောင်" သို့ ချောင်းပေါက် မတတ်သွားနေသည်မှာလည်း အကြောင်းရှိ၏။ သူ၏ မမက အလှပဂေး လေးတစ်ဦးဆိုတော့ "ဧကရီဆောင်"၏ လှပျိုမေတွေ ထဲ တစ်ဦးအပါအဝင်ဖြစ်၏။

ရှမ်းနှင့် ချယ်ရီ မခွဲတန်ရာမှာ ဘုဏ်းမြတ်၏ အကြိုက်က ရှမ်းတောင်တန်းမှ ချယ်ရီပန်းလေး။ ချယ်ရီနှင့် တူလွန်းလှသော သူမက အသားအရည်လေးကအစ ကြည်လင်လှပြီး ဥပမိကရုပ်က နန်းဆန်ပြီး မဟာဆန်လှ၏။

ထို့ကြောင့်လည်း သူမ၏ အလှတရားမှာ ကျွန်တော်တို့ကောင်ကြီး ပျော့ညွတ်ခွေကျ သွားရသည်မဟုတ်လား။ ထူးဆန်းသည် တစ်ခုကလည်း ရှိတန်ရာ သူမ၏ အမည်က အနွယ်တော် တစ်ဦး၏အမည်ပင်။ သူမကတော့ ထုတ်ဖော်ပြောကြားခြင်းမရှိ၍ သူမ၏ ဇာတ်မြစ်ကို ကျွန်တော်တို့လည်း မသိခဲ့ရပေ။ ကျွန်တော် လည်း တောင်ပိုင်းအနွယ်တော် တစ်ဦးဆိုတာကို ဖုံးကွယ်ထား သည်ပဲလေ။သို့သော် သူမ၏ အမည်ကတော့ ထူးဆန်းလှ၏။

သူမကျွန်တော်တို့နှင့် အဖွဲ့ကျသွားသည်မှာလည်း အကြောင်းရှိ၏။ ဇူးဇူးကို ကပ်ပေါင်းထားသည့် ဘုဏ်းမြတ်မှာ သူ့မမကို အပြင်သို့အခေါ်ထုတ်ဖို့လည်း ပူစာ၏။ နားမခံနိုင်သည့် ဇူးဇူးက ထီလာမြို့၏ ဖောင်တော်ဦးဘုရားပွဲသွားမည် ဆိုပြီး အကြောင်းရှာကာ ထိုမမကို ခေါ်လာ၏။

"တို့ဒီနေ့ အဆောင်က မမတစ်ဦးခေါ်လာတယ်။ မင်းတို့လည်း မမကို သိနှင့်နေလောက်မှာပါ။ မမက အမည်ကြီးလေ"

"အို--! ဇူးဇူးကတော့ လုပ်တော့မယ်။ မမက အဲ့လောက်လည်း မဟုတ်ရပါဘူး"

ထိုမမ၏ အသံကြားတော့ ဘုဏ်းမြတ်မှာ ထခုန်မတက်ပင် ဖြစ်နေ၏။ မျက်နှာပိုးသေဖို့ ကျွန်တော်နှင့် မင်းခက်ကပင် ဝိုင်း၍ အသိပေးကြရ၏။ လူးကပ်(စ်)ကတော့ တည်မြဲအတိုင်းသာ တည်ပြီး ရှိ၏။ ကိုစိုင်းကမှ အနည်းအကျဉ်း ပြုံးရယ်ပြသေး၏။ အဲ့တုန်းကဆို ကျွန်တော် မမကို အားနာလိုက်ရတာလေ အရမ်းပဲ။

လူးကပ်ကတော့ ပြောမရပေ။ ပြုံးလည်းမပြုံး/ ဒေါသလည်း မထွက်ပဲ တည်မြဲသာတည်နေ၏။

"ကဲ--! ထားပါလေ။

မမပဲ မင်းတို့ကို မိတ်ဆက်ပေါ့မယ်။ မမက မင်းတို့ထက် အရွယ်အားဖြင့်လည်း ကြီးတယ်။ အသက်အားဖြင့်လည်း ကြီးတယ်။ အဲ့ဒီအတွက် မမကို မမလို့ခေါ်ရင်ပဲရပြီ။ နန်းခမ်းရည်ဦးပါ။ တတိယနှစ် ဥပဒေအထူးပြုယူထားတယ်။ ဓာတိက သီပေါ။ အကူအညီလိုအပ်ရင် အချိန်မရွေးပြော။ အကြီးတစ်ယောက်အနေနဲ့ တတ်နိုင်သလောက် ကူညီပေးမယ်"

ဒီလိုနှင့် ကျွန်တော်တို့ အဖွဲ့ထဲ အကြီးတန်းက မမတစ်ဦးလည်း ပါဝင်လာခဲ့၏။ ဖောင်တော်ဦးပြောမှ ဖောင်တော်ဦးအကြောင်းဆက်ရအုံးမည်။ ကျွန်တော်၏ လူတည်ကြီး လူးကပ်(စ်)ကြီးပေါ့လေ။ ကျွန်တော့်အမေးတွေကို ကွန့်ညွှန့်နေသလား အောက်မေ့ရလောက်အောင် အကွန့်အညွှန့်တွေနှင့် ကျွန်တော့်ကို ကွန့်ညွှန့်၏။ ဘယ်လို ကွန့်ညွှန့်လေသလဲ မမေးလေနှင့်။ ကျွန်တော် ပြောပါမည်။

ဖောင်တော်ဦးဘုရားပွဲ စသည့်ရက်။

ထိုရက်၌ မမနန်းလည်း ပါဝင်၏။ (နန်းခမ်းရည်ဦးကို ခေါ်ဆိုခြင်း)။ အမြဲတည်နေရှ် ကျွန်တော် လူးကပ်(စ်)ကို အမြင်ကပ်စွာ စကား စမိ၏။

"မင်း စကားလေးဘာလေး ပြောစမ်းပါအုံး။ စကားမှမပြောချင်ရင် ဘာလို့ လိုက်လာသေးလဲ"

"ကျုပ်လိုက်လာတာ မိတ်ဆွေလေးရှိလို့လေ။ ဒါကို မိတ်ဆွေ လည်းအသိပဲ"

"မိတ်ဆွေ /မိတ်ဆွေနဲ့ ဘာဖြစ်လို့ တစ်မိတ်ဆွေထဲ မိတ်ဆွေနေ ရတာလဲ။ နာမည်ပဲခေါ်စမ်းပါ။ ခွန်စဝ်ဆိုလည်း ခွန်စဝ်ပေါ့။ ကိုစိုင်းတို့ မင်းခက်တို့ ခေါ်သလိုခေါ်ပေါ့"

ကျွန်တော် စိတ်ပြတ်ကာ အော်လိုက်မိ၏။

ထိုအခါ လူးကပ်(စ်)က ကျွန်တော့်ကို တည့်တည့် စူးစိုက်ကြည့် လာပြီး ဤသို့လည်း ဆိုလာပြန်၏။

"အများနဲ့ မတူတဲ့ ခေါ်ဆိုခြင်းမှာ အမည်လေးပင် ဖြစ်နေအုံး။ ကျုပ် အမည်တူ မခေါ်ဘူး။

သံယောဇဉ် မရှိခဲ့တဲ့ ကျုပ်တို့ရဲ့ ဆက်ဆံရေးမှာ မိတ်ဆွေလေးကိုတော့ ကျုပ်ဘယ်သောအခါမှ မမေ့ခဲ့ဘူး။ အမြဲတစ်ဆေအောက်မေ့နေခဲ့တယ်။

ကုန်လွန်သွားတဲ့ ခြောက်နှစ်မှာ ကျုပ်ကတော့ မိတ်ဆွေကို အမြဲတသအောက်မေ့နေခဲ့တယ်။

ဘာကြောင့်များ ကျုပ်က တစ်ပါးသူတွေအတွက် အရယ်/ အပြုံး/ စကားလုံးတွေ စွန့်ကျဲနေရမှာပဲ။ ကုန်လိုက်ပါရောနဲ့။ တစ်ဦးထဲသီးသန့် ရှိနေတဲ့ ကျုပ်ရဲ့ အရယ်/အပြုံးတွေမှာ မူပိုင်က မိတ်ဆွေလေးဆိုတဲ့ ကျုပ်ရဲ့ ဟိုးလွန်ခဲ့တဲ့ ခြောက်နှစ်က သိကျွမ်းခဲ့တဲ့ မိတ်ဆွေတစ်ဦးထဲအတွက်ပဲ ။"

"ဒါဆိုမင်း ဘာလို့ စကားမပြောလဲ"

"ပြောဖို့ မလိုအပ်ခြင်းတွေမှာ ကျုပ်ဘက်က စကားပြောဖို့ လိုသလား။ ကြားနေ/မြင်နေပြီပဲ မှတ်မိရင် တော်ရောပေါ့။ အကြားစွမ်းရည်နှင့် အမြင်အာရုံမှာ သူတို့ဘာပြောနေလဲဆိုတာ ကျုပ်ကြားသိရတယ်။ မိတ်ဆွေနဲ့ သူငယ်ချင်း ခွဲခြားထားခြင်းမှာ

မိတ်ဆွေလေးက ကျုပ်ရဲ့ တစ်ဦး ထဲသော မိတ်ဆွေ။ သူတို့က ကျုပ်ရဲ့ သူငယ်ချင်းအပေါင်းအသင်းတွေပဲ"

ဒီနေ့ ကျွန်တော်တို့တွေ တက္ကသိုလ်ဆိုသည့် မြေကို စတင်ပြီး ခြေချတော့မည့်နေ့။ ထိုအတွက် ကျွန်တော်တို့တစ်တွေ အကုန်လုံး စိတ်လှုပ်ရှားစွာနှင့် ရှိနေကြ၏။ အနာဂါတ်မှာ အဖူး/အပွင့် /အကိုင်း/အခက် များရှိလာမည်မှာ ကနဦးရေသောက်မြစ်က ဤအမိတက္ကသိုလ်ကြီးက ဖြစ်နေ၍ ကျွန်တော်တို့တစ်တွေ စိတ်လှုပ်ရှားကြသည်က အဆန်းတော့ဖြစ်မနေ။လူတိုင်း တက္ကသိုလ် ပထမရက်တွင်တော့ စိတ်လှုပ်ရှားကြသည်ပဲ။

မနက်ထဲက မင်းခက် သူ၏ဖီးဆင့်စက်ဘီးလေးနှင့် ကျွန်တော်တို့ အဆောင်သို့ရောက်လာ၏။ အဆောင်မှာ ခဏတဖြုတ်နေပြီးမှ ကျွန်တော်တို့တစ်တွေ ကျောင်းသို့ ဆက်ကြ၏။ ဇူးဇူးနှင့် ငွေနှင်းမှုံကိုတော့ ကျွန်တော်တို့လည်း စောင့်မနေတော့။ "ကေရီဆောင်"မှ လာမည် ဖြစ်သဖြင့် သူမတို့နှင့် ကျွန်တောတို့ တစ်တွေ ကျောင်းရောက်လျှင်ဆုံမည်ပဲလေ။

"ခမ်းနားလိုက်တာကွာ။ ဒါက အမိတက္ကသိုလ်ကြီးတဲ့လား။

ကျယ်ဝန်းတဲ့ ဧကမှာ တည်ရှိနေတဲ့ အဆောင်တွေကလည်း အများသား။ ၁၉၉၉ ခုနှစ် ဆိုတော့ တို့က ၂၀၀၂ ဆိုဘွဲ့ရမှာ ။ ဒါဆို တို့တွေက ၂၀၀၂ ဘွဲ့ရ အသုတ်တွေဖြစ်လာမှာပေါ့နော်"

ဘွဲ့ရမည့် ခုနှစ်ကိုပါ ကြိုပြီး တွက်စနေသည့် ဘုဏ်းမြတ်။ သူ၏ စကားမှာ ကိုစိုင်းနှင့် မင်းခက်ကပါ ခေါင်းတညိတ်ညိတ်နှင့် သဘောတကျရှိရင်း မိန်းအတိုင်း လျှောက်လှန်းသွား၏။ ရှည်လျား လှသည့် ကျောင်းအဝင်လမ်း (မိန်း) ကြီးရှေ့မှာတော့ ကျွန်တော် ရော လူးကပ်(စ်)ပါ ရပ်နေမိ၏။

"ရေးစပ် ခြယ်မှုန်းခြင်းများစွာမှာ ရှိနေသော နံရံဖြူလွလွလေး။ ထိုနံရံဖြူလွလွထပ်၌ အမိတက္ကသိုလ် စကားလုံးကြီးက တစ်ခမ်း တစ်နားနှင့် ပြာလွင်လျက်ရှိ၏။ ဤခမ်းနားထည်ဝါလှသော အမိတက္ကသိုလ်မြေမှာ ကျုပ်၏ အမည်ကား ဆွဲကျန်ရစ်စေရမည်။ ထောက်ခံတယ်မလား။ ကျုပ်၏ အမိတက္ကသိုလ်မြေ"

ကျောင်းအဝင်၌ တည်ရှိနေသော ကျောင်း၏ အမည်ကို လူးကပ်(စ်)က ကြည့်ရင်းနှင့်ပင် နှုတ်အစုံမှလည်း ရေရွတ်၏။ စကားလုံးများက ပြသနေသည့် အထောင်အထားများကလည်း ရှိရင်း လူးကပ်(စ်) ဒီအမိတက္ကသိုလ်မြေ၌ အမည် ဆွဲကျန်ရစ် အောင် ဂုဏ်ထူးဆောင်တော့မည် ဆိုတာ သိသာလှ၏။ လူးကပ်(စ်) လျှောက်လှမ်းသည့်အတိုင်း ကျွန်တော်လည်း ထပ်ကြပ်မကွာ လျှောက်လှမ်းမိ၏။ လျှောက်လှမ်းနေသည့် ကျောင်းအဝင်လမ်းမကြီး၏ ရှည်လျားခြင်းမှာ ကျွန်တော် ဘေးတစ်ဖက်ရှိ စကြံလေးများပေါ်သို့လည်း အကြည့်ပို့မိ၏။ ရေတမာ/ကံ့ကော် /ကုက္ကိုလ်ပင် များက အတိုင်းသားရှိနေ၏။ ထိုအတိုင်းသား ရှိနေသော အပင်ကလေးများကို ကြည့်ရင်း ကျွန်တော်၏ စိတ်အစုံမှလည်း တက္ကသိုလ်လမ်းကဗျာ တစ်ပုဒ် စပ်ချင်လာ၏။ စပ်ခဲ့သည်လည်း ထင်ပါ၏။ ဒါကြောင့်လည်း ယနေ့အချိန်ထိ ကျွန်တော်ထိုကဗျာလေးကို မမေ့နိုင်သေးပေ။

"မွှေးပျံ့ထုံသော ပန်းပေါင်းစုံ။
ရနံ့ ကြိုင်လှိုင်သော ပန်းပေါင်းစုံ။
အဖူး/အငုံ /အကိုင်း/အခက်များနှင့်

အစချီရာ ရေသောက်မြစ်မှာ တွေ့ဆုံကြ၏။

ဘယ်မှာလဲ အဖူး/အငုံ။

ဘယ်မှာလဲ ပွင့်ချက်/ပွင့်လွှာ။

ဘယ်မှာလဲ အကိုင်း/အခက်။

ပိတုန်းရှိသည်။

အလားတူ ပျားလည်းရှိသည်။

လိပ်ပြာလေးတွေလည်း ရှိသည်။

သူတို့ကိုတော့ မတွေ့သေး။

ရှိချင်လည်း ရှိနေမည်။

ရေသောက်မြစ်မှာ အစချီရင်း ပွင့်ချက်/ပွင့်လွှာ

ဖြစ်ဖို့ ငါ အဖူး/အငုံထဲက ရုန်းကုန်ရမည်။

ရေတမာရိပ်မှာပဲ နားခိုမိမလား။

ကံ့ကော်ရိပ်မှာများ နားမိမလား။

အို--! စိတ်ကူးယဉ်ဆန်စွာနှင့်ကုန်ကုန်ပဲ

ပြောလိုက်တော့မည်။

ကုက္ကိုလ်စီမှာပဲ နားခိုလေမလား။

ဒါကိုတော့ ငါလည်းမသိ။

အမှတ်တရအဖြစ် ကျန်ရစ်ရင်း တစ်ချိန်မှာ

အောက်မေ့စရာကောင်းတစ်ခု အဖြစ် တည်ရှိနေဖို့တော့
ငါ ထိုအရိပ်တွေမှာ လွမ်းရိပ်စင်ရအုံးမည်။
ဟုတ်လေစ။ အမိတက္ကသိုလ်မြေ"

အနီးကပ်ဆယ်ရက်အတွင်း၌ ရှိနေသော ရက်များစွာဟာ ကျွန်တော့် အတွက်တော့ နိဗ္ဗာန်စံနေရသည့်အတိုင်းပင် ရှိ၏။ အတန်းတက်လိုက် သူငယ်ချင်းတွေနှင့် ပျော်မြူးလိုက်လုပ်နေခြင်းဟာ အမှန်ကို နိဗ္ဗာန်ရောက်နေသည့် အတိုင်းပင်။

ဒီလိုနှင့် တစ်ရက်။ ကျွန်တော်တို့အဖွဲ့ ကျောင်းရှိရေလယ်ဘုရားသို့ သွားဖို့စင်ထားကြ၏။ သွားမည်ဆိုမှ ကောက်ခါငင်ခါကြီး စာကြည့်တိုက် သွားစရာရှိသည် ဆိုပြီး ထသွားသည့် ကိုစိုင်း။ ထိုမှ မင်းခက်ကလည်း စာကြည့်တိုက်လိုက်ချင်သပ့်ဆိုပြီး ကိုစိုင်းနှင့် ပါသွား၏။ ဇူးဇူးမှာတော့ ဘ၀ပေးတာ၀န်မဟုတ်သည့် သူမ၏ ၀တ္တရားမပြတ်သည့် တာ၀န်ကို ကျေပွန်ဖို့ရာ အင်္ဂလိပ်စာဌာနဘက်သို့ သွား၏။ ထိုမှာလည်း အကြောင်းရှိ၏။ ငွေနှင်းမှုံကို အကြို/အပို့ လုပ်ပေးသည့် အကြောင်းသာ ဖြစ်၏။ ဘုဏ်းမြတ်ကတော့ ထုံးစံအတိုင်း သူ၏ မမနန်းစီသို့ ပြေးပြီး ကိုယ်ရံတော် /

တပ်မှူးလေး အဖြစ် ရှိနှင့်၏။ ထိုနှင့် ကျွန်တော်နှင့် လူးကပ်(စ်) နှစ်ဦးထဲသာ ကျောင်းရှိ ရေလယ်ဘုရားသို့ လာခဲ့ရတော့၏။

ကျောင်း၏တည်ဆောက်ပုံကအစ ဆန်းကျယ်ပြီး ခမ်းနားလှသည့် ကျွန်တော်၏ အမိတက္ကသိုလ်ကြီးမှာ အံ့မခန်းအရာများစွာ ကလည်းရှိ၏။ ကျောင်းအလည်မှာ ဘုရား တည်ရှိပြီး ရေကန်လေး က ထိုဘုရား၏ ဘေးပါတ်ပါတ်လည်ကို ဝန်းရံထား၏။ ကျွန်တော် ဒီဘုရားပေါ်မှာ သဘောအကျဆုံးက ဘုရားပေါ်မှ ရေကန်လေးကို ကြည့်ရတာပင်။ ရေလယ်မှာ ဘုရားရှိပြီး ဘေးမှာ ကန်ရှိနေသည် က ဘာနှင့်တူသလိုဆို ထီလာဖောင်တော်ဦးနှင့်လည်း တူ၏။ ရေလည်၌ ရှိနေသော ဖောင်တော်ဦးဘုရားစီရောက်ဖို့ တံတား လေး နှင့် ခရီးဆက်ရ၏။

ထို့ကြောင့် ကျွန်တော် ဒီဘုရားကို ဖောင်တော်ဦးဘုရားနှင့် တူသည်ဟု တွေးစမိ၏။ အမှန်တော့ တူမနေပါ။ ကျွန်တော်၏ တွေးစချက်များစွာပေါ့။ ကျွန်တော် ဒီဘုရား၌ ရှိရင်း တစ်ခုခုကို တွေးမိလာ၍ လူးကပ်(စ်)ကို ကြည့်မိ၏။

"လူးကပ်(စ်) အင်းလေးဖောင်တော်ဦး ရောက်ဖူးလား"

"ရောက်ဖူးတာပေါ့။ ကိုယ့်အရပ်ပဲ ။ ဘာလို့လဲ"

အရပ်တူသည့်အတွက် လူးကပ်(စ်) ရောက်ဖူးမှန်းသိနေပေမယ့် ကျွန်တော်မေးကြည့်လိုက်၏။ ထိုအခါ လူးကပ်(စ်)က ကျွန်တော့်ကို အမေးစကားထုတ်လာ၏။

"ဘာရယ် မဟုတ်ပါဘူး။ ဒီရေကန်လေးကို မြင်တော့ ဖောင်တော်ဦးကို အမှတ်ရလာလို့။ နောက်ပြီး ဒီမှာလည်း ထီလာဖောင်တော်ဦး ရှိနေတယ်လေ"

"အင်း"

ထိုစကားသာပြောပြီး လူးကပ်(စ်)က ကန်ရေပြင်စီ၌သာ အကြည့်ထားရင်း တစ်စုံတစ်ခုကို ပြောဖို့ တွေးတောနေသလိုနှင့်ရှိနေ၏။ အကြည့်ကိုလည်း မလွှဲထား။ အနောက်ဥရောပဆန်စွာ ရှိနေသည့် သူ၏ မျက်ဝန်းများမှာဆို ကန်ရေပြင်အတိုင်း ပြာလဲ့နေ၏။

"အင်းလေး၌ ရှိသော ဖောင်တော်ဦး။
အညာမြေ၌ ရှိသော ဖောင်တော်ဦး။
အသွင်တူစွာနှင့် ရှိနေခြင်းမှာ
အားလုံးဟာ တူညီ၏။
ရေလယ်၌ ရှိနေသော ဘုရား၏ တည်ရှိခြင်းမှာ
သပ္ပါယ်လှစွာနှင့် ပနံ့လည်းသင့်၏။
ခြေနှင့်လှော်သော ကစားပွဲတစ်ခုကို
အညာမြေမှာလည်း ထည့်သွင်းထားရာ
ထိုအချင်းအရာဟာ ဖောင်တော်ဦးမှာသာလျှင်ရှိ၏။
မွေးပျံ့/ကြိုင်လှိုင်နေခြင်းမှာ
ဘယ်အရပ်ပဲဖြစ်ဖြစ် သပ္ပါယ်လှစွာရှိနေသည်က
သုံးလောကထွဋ်ထား မြတ်စွာဘုရား"

စကားလုံးများစွာနှင့် တူညီသည်များကို ပြောသွားသည့် လူးကပ်(စ်)။ လူးကပ်(စ်) စကားအသွား/အလာတွေအရ ဘာကို ဆိုလိုမှန်းကျွန်တော်သိ၏။ နားလည်၏။ ဘယ်အရပ်မှာပဲဖြစ်ဖြစ် သပ္ပါယ်နေမည့် အရှင်ဘုရားဟာ

တစ်ဆူထဲလေ။ ရုပ်ပွားတော်တွေသာ ရှိသည်မလား။ စကားလုံးများစွာနှင့် လက်တမ်း လင်္ကာ/ကဗျာ စပ်သွားသည့် လူကပ်(စ်)ကို တော့ ကျွန်တော် ချီးကျူးမိ၏။ တစ်ချိန်မှာ တရားခွင်ဝင်ရမည့် လူးကပ်(စ်) စကားကြွယ်ဝခြင်းမှာလည်း ကျွန်တော် သဘော တကျရှိနေပြန်၏။ သို့သော် လူးကပ်(စ်)ကတော့ ကျွန်တော့်ကို စကားလုံးများစွာနှင့် အမေးစကားထုတ်သွားပါ၏။

"ကျောင်းပိတ်ရင် ဘာလုပ်မလဲ မိတ်ဆွေလေး"

"စာဖတ်/ကဗျာစပ် လုပ်ဖြစ်မှာပဲ။ ဘာလို့လဲ လူးကပ်(စ်)"

"ကျုပ်ကတော့ မိတ်ဆွေလို မဟုတ်ဘူး။ အလုပ်ရှိတယ်။ ဒီမယ် မိတ်ဆွေ။ ရှမ်းပြည်မှာ အကြီးဆုံးမြစ်က ဘယ်မြစ်လဲ"

"သံလွင်မြစ်ပေါ့ လူးကပ်(စ်)ရဲ့။ ဒါကို လူတိုင်းသိတာပဲ။ ပေါက်ပေါက်ရှာရှာကွာ ။ မေးလည်း မေးတတ်ပ့ါ"

ထိုအခါ လူးကပ်(စ်)က ရယ်ရင်း ကျွန်တော့်ကို

စူးစိုက်ကြည့်၏။ ထို့နောက်မှ စကားလုံးများ ဆက်ပြော၏။

"ရှည်လျားတဲ့ သံလွင်မြစ်ကို ကူးဖို့ ကျုပ် ကြိုးစားနေမိမှာ။ ကြိုးစားရင်း လိုရာမရောက်ရင် ကျုပ် တံတား ထိုးဖို့လုပ်လိမ့်မယ်။ ဒါမှ မရသေးရင်လည်း ကျုပ် နမ္မတူမြစ်ဘက် လှည့်မိလိမ့်မယ်။ နမ္မတူမြစ်ကို တံတားထိုးရင်တော့ လွယ်မယ်မလား။ တံတား မရလည်း ဘာခက်နေလဲ။ ဖောင်ထိုးပြီး ကူးရုံပေါ့။ မိတ်ဆွေနဲ့ နီးစပ်ဖို့ ကျုပ်ကူးခတ်ရမယ့် ပင်လယ်ပြင်ကြီးက ကျယ်ပြန့်ရန် ကောပဲ။ ဒါကြောင့်များ သံလွင်ချောင်းခြား ဆိုတဲ့ သီချင်း ဖြစ်ခဲ့ လေသလား။ မပြောတတ်တော့ပါဘူး"

နားမလည်သည့် စကားလုံးများနှင့် ပြောသွားသည့် လူးကပ်(စ်) ကိုကြည့်ရင်း ကျွန်တော် နားမလည်နိုင် ဖြစ်ရပြန်၏။ တောင်နှင့် မြောက်တည်ရှိနေခြင်းမှာ လူးကပ်(စ်)က ကျွန်တော့်စီလာဖို့ သံလွင်မြစ်ကိုပင် တံတားထိုးအုံးမည်တဲ့။ ကျွန်တော်၏ နှုတ်မှ လည်း လူးကပ်(စ်)အတွက် စကားလုံးများစွာ ထွက်သွားစေ လိုက်၏။ လူးကပ်(စ်) ကြားလိုက် /မကြားလိုက်ကိုတော့ ကျွန်တော်လည်း မသိချေ။

"ဟုတ်မှလည်း လုပ်ပါ လူးကပ်(စ်)ရယ်"

သံလွင်မြစ်၏ အကျယ်အဝန်းကြီးက နယ်နယ်ရရကြီးမှ မဟုတ်ပေလား။

ပထနှစ်မှာပင် နောက်ထူးဆန်းသည့် အကြောင်းတရားမှာလည်း ရှိခဲ့၏။ ထိုအကြောင်းမှာလည်း လူကပ်(စ်)နှင့်ပင် သက်ဆိုင်၏။ လူးကပ်(စ်)တွင် ယိုးဒယားထုတ်ဖြစ်သည့် ဒီဒီ ဆိုင်ကယ်ကြီးရှိ၏။ super-cub လောက် စီးကြသည့် ခေတ်မှာ ဒီဒီ ဆိုင်ကယ်ကြီး ရှိသည့် လူးကပ်(စ်)ကို လူတိုင်းက အထင်ကြီးကြ၏။ လူးကပ်(စ်)၏ ဒီဒီဆိုင်ကယ်ပေါ်သို့ လိုက်ပါစီးနင်ချင်သည့် မဒီများမှာလည်း များစွာရှိကြ၏။ သို့သော် လူးကပ်(စ်)က အလွန်ထူးဆန်းလှ၏။ ရောက်စထဲက ထိုဆိုင်ကယ်ကို မစီး။ ကျွန်တော်တို့နှင့်သာ ဘယ်ဖြစ်ဖြစ် ချေလျှင်လျှောက်၏။

ထိုဆိုင်ကယ်ကို စီးကြသည့် သူအများစုမှာ ကျောင်းပျော်ကြီး အဖွဲ့ပင် ဖြစ်၏။ သော့ပင် ဆိုင်ကယ်၌ ချိတ်ပေးထားသည့် လူးကပ်(စ်)မှာ ဆိုင်ကယ်အတွက် တပြားသားမှ ပူသည့်ဟန်လည်း မရှိသည့် ပုံနှင့်ရှိနေ၏။ တကယ်ကို အေးဆေးတဲ့ ကောင်ပါ

လေ။ လူးကပ်(စ်)ထိုသို့ မစီးရင် အကြိုက်ဖြစ်နေသည့် ကောင်တွေက တစ်ဖွဲ့သား။ ထိုထဲ ဘုဏ်းမြတ်နှင့် မင်းခက်လည်း ပါ၏။ မန္တလာသား ဖြစ်သည့် ဘုဏ်းမြတ်မှာ ဆိုင်ကယ်ကို ကျွမ်းကျင်သလို ထီလာသားဖြစ်သည့် မင်းခက်ကလည်း ဆိုင်ကယ်စီးကျွမ်း၏။ အိမ်၏ အလိုကြောင့်သာ မင်းခက်က ဖီးဆင့် စက်ဘီးကလေးနင်းနေရခြင်း။ သူစီးချင်တာက ဆိုင်ကယ်ပင်။ ထိုထဲ ကိုစိုင်းလည်းပါ၏။ တစ်ခါတစ်လေ ကိုစိုင်းလည်း ကန်တစ်ဘက်ပါတ်ကာ လေညှင်းခံဆိုပြီး ထွက်တတ်၏။ ဘုဏ်းမြတ်ကတော့ ထိုဆိုင်ကယ်ကြီးနှင့် "ကေရီဆောင်" သို့ ချောင်းပေါက်မတတ်သွား၏။ မင်းခက်ပါသည်က ခပ်များများပင်။ လိုက်သည့် မင်းခက်ကလည်း အကြောင်းရှိ၏။ အပြန်တွင် သူ ထိုဆိုင်ကယ်ကြီးကို စီးချင်၍ဖြစ်၏။

ပိုင်ရှင်ကမစီးပဲ ကြည်ဖြူပေးထားသည့် အပေါ်မှာ ကျွန်တော် လူးကပ်(စ်)ကို မေးကြည့်မိ၏။ ထိုအခါ လူးကပ်(စ်) ဖြေလိုက်သည်က ကြက်သီးထချင်စရာပင်။ ဖြေပုံကိုလည်း ကြည့်အုံးလေဗျာ။

"ဆိုင်ကယ်မစီးပဲ မင်းဘာလို့ ယူလာသေးလဲ လူးကပ်(စ်)"

"အစကတော့ စီးဖို့ပဲ။ ဒါကလည်း ကျုပ် တစ်ဦးကို ကယ်ရီလုပ်ပေးချင်လို့။ ဒါပေမယ့် ကျုပ်က ကံဆိုးတယ်ဗျ။ သူက ကျုပ်အနောက် လိုက်မှာမဟုတ်ဘူး"

"ဘာလို့သေချာနေတာလဲ လူးကပ်(စ်)"

"မိတ်ဆွေမှ ကျုပ်အနောက်လိုက်စီးမှာမှ မဟုတ်ပဲ။ ကျုပ်တွေးတာ မှားသွားလို့လား"

အူလည်သွားသည့် ကျွန်တော့်မှာ တကယ်ကို ဒူသွားသည့် အတိုင်းပင် လူးကပ်(စ်)ပြောတာ နားမလည်ခဲ့။ သို့ပေမယ့် လူးကပ်(စ်) ဘာကြောင့် ဆိုင်ကယ်မစီးသည်ဆိုတာကိုတော့ ကျွန်တော်သိသွားခဲ့၏။ လူးကပ်(စ်)က ကျွန်တော်နှင့်မှ အတူစီးချင် သည်တဲ့။ ခက်တာက ကျွန်တော်ကလည်း မည်သူ့နောက်မှ ဆိုင်ကယ်လိုက်မစီးရဲ ဆိုင်ကယ်ဆို ကျွန်တော်အလွန်ကြောက်ပါ၏။

*******

ဒီလိုနှင့် ကျောင်းတွေပိတ်ပြီးရျှ ကျောင်းတော်ကြီးနှင့် ကျွန်တော်တို့တစ်တွေ ခွဲခွာခဲ့ကြ၏။ တစ်မြို့/တစ်နယ်ကို အသီးသီးပြန်ကြရ၏။ ထိုထဲ ဖူးဖူးကတော့ ဆန့်ကျင့်ဘက်ပင်။ သူမ၏ဇာတိသို့ မပြန်ပဲ ငွေနှင်း၏ ရွာသို့ အလည်လိုက်သွား၏။ အစကနဦးမှာတော့ ကျွန်တော်တို့လည်း အလည်လိုက်ဖို့ စင်ကြ၏။ သွားခါနီးမှ မင်းခက်က လိုက်ရျှ မရဟု ဆိုလာသဖြင့် ကျွန်တော်တို့ သွားဖို့ကို ဖြတ်ခဲ့ကြပြီး ကိုယ့်နယ်မြေ/အရပ်ဒေသစီသို့သာ ပြန်လာခဲ့ကြ၏။ အားလုံး အလုပ်ကိုယ်စီတွေနှင့် ရှိနှင့်နေကြမည်မှာ ကျွန်တော်ကသာ အလုပ်မရှိ။

ဖေဖေ၏ လုပ်ငန်းရှိပေမယ့် ဝါသနမပါရျှ ကျွန်တော်မလုပ်ချင်။ လူးကပ်(စ်)၏အလုပ်ကိုတော့ ကျွန်တော်ပြောခဲ့ပြီးပြီးဟု ထင်၏။

ရက်/လ/နှစ်တွေ အပြောင်းမှာ ကုန်လွန်သွားသည့် ရက်များစွာ၌ ကျွန်တော် လက်ချိုးရေမနေခဲ့။ စာဖတ်လိုက်/ကဗျာရေးလိုက် / တစ်ခါတစ်လေ ကိုစိုင်း ညီမလေးတွေစီ အလည်သွားလိုက်နှင့် ကျွန်တော်တောင်ပိုင်းတစ်ခွင်ကို ပါတ်နေခဲ့၏။ မြောက်ပိုင်းနှင့် အရှေ့ပိုင်းကိုတော့ ကျွန်တော် မရောက်ဖြစ်ခဲ့။ ကုန်ဆုံးသွားသည့်

အချိန်တွေမှာ ကျွန်တော် သဘောပေါက်လာခဲ့သည့် အရာများစွာလည်း ရှိလို့လာခဲ့၏။

ထိုနှင့် တစ်နေ့။ ဒုတိယနှစ် ပြန်သွားရသည့်ရက်။

ပထမနှစ် တက်ပြီးပြီဖြစ်၍ ဒီတစ်ကြိမ်တွင်တော့ ကျွန်တော်နှင့် ကိုစိုင်း မဒူတော့။ တုတ်တုတ်(သုံးဘီးဆိုင်ကယ်)ကို တုတ်တုတ် ဟုပင်ခေါ်တတ်ခဲ့ပြီ။ ပထမနှစ် တက်ခဲ့ပြီးပြီလေ။ အဆောင်သို့ ရောက်ချိန်၌ ကျွန်တော်ရော ကိုစိုင်းပါ ပန်းနေကြပြီ။ ကြိုတင်ငှားထားသည့် အခန်းဖြစ်၍ အခန်းကလည်း အရင်အခန်း/ အရင်အဖော်ပင်။ ထိုနှင့် ကျွန်တော်တို့နှစ်ဦး အဆောင်ရှင်ကို အရောက်ပြခဲ့ပြီး အပေါ်ထပ်သို့ တက်ခဲ့ကြ၏။ ကြိုတင်ရောက်နေသည့် ဘုဏ်းမြတ်က ကျွန်တော်နှင့် ကိုစိုင်းကို ထွက်ကြို၏။ ကိုစိုင်းနှင့် ဘုဏ်းမြတ်က အခန်းတူ၍ ကိုစိုင်းကလည်း ကျွန်တော့်ကို နှုတ်ဆက်ပြီး အခန်းထဲ ဝင်သွား၏။ အဆောင်အောက်ထပ်၌ ဆိုင်ကယ်တွေ့ခဲ့ရသည့် ဆိုင်ကယ်ပိုင်ရှင်မှာ အခန်းထဲတွင်မရှိ။ သူမရှိသည်နှင့် စိတ်မကောင်းဖြစ်လာသည့် ကျွန်တော်၏ ပုံပန်းသဏ္ဍာန်ကြောင့် ကိုယ့်ဘာသာ သင်ကာမကင်း ဖြစ်ရသေး၏။

နောက်မှ ကိုယ်တော်ချောက ရေချိုးသွားနေ၏တဲ့လေ။ ဟားချင်စရာကြီးနော်။

ဒီလိုနှင့် ကျွန်တော်တို့တွေ ဖြတ်သန်းလာခဲ့ကြသည်မှာ တစ်ရက်ပြီး တစ်ရက် ကုန်လွန်ရင်း ဒုတိယနှစ်ကြီး၏ စာမေးပွဲကြီးပင် ဖြေရတော့မည့်ရက်သို့ ရောက်ရှိလာခဲ့၏။ ဒီနှစ်မှာ ကျွန်တော်တို့အဖွဲ့ထဲ ထူးခြားတာဖြစ်ခဲ့၏။ ဖူးဖူးနှင့် ငွေနှင်း အရင်ကထက် ရေလည်လာကျ၏။ သူတို့က အမြဲရေလည်နေတာပဲ ဟုဆိုလျှင် သင်မှားသွားမည်။ သင်ထင်သလို မဟုတ်။ သူမတို့ချင်း ရေလည်ခဲ့သည်မှာ မေတ္တာဓါတ်တွေနှင့် နက်ရှိုင်းစွာ ရစ်ပါတ်ခြင်းဖြင့် ရေလည်ခြင်း။ ဒီလောက်ဆို သိဖို့ကောင်း၏ ဟုလည်း ကျွန်တော် ထင်မြင်မိပါ၏။ ဘုဏ်းမြတ်နှင့် မမနန်းလည်း အဆင်ပြေကြ၏ဟု ဘုဏ်းမြတ် ဆိုလာသည်လည်းရှိ၏။ ကျောင်းပိတ်ရက်တွေမှာ မမနန်း မန္တလာမြေသွားရင်း ဘုဏ်းမြတ်နှင့် တွေ့ခဲ့သည်ဟု ဘုဏ်းမြတ်က ပြောခဲ့၏။ ပြောသာပြောနေတာပါ မမနန်းကတော့ အရင်ကလိုပဲပဲဟု ကျွန်တော်တို့ ထင်မြင်ယူဆ၏။ ဂုဏ်ထူးတန်းပါချင်သည့် မမနန်းက နောက်ဆုံးနှစ်ဖြစ်၍ အရင်ကထက် စာပိုလေ့လာကာ ကျွန်တော်တို့နှင့် အရင်လိုပင်

အပြင်သိပ်မလိုက်တော့။ ငါးခါလောက်ခေါ်မှ အားနာ၍ တစ်ခါလောက်လိုက်သည်။ ကိုစိုင်းကလည်း ထူးဆန်းလာ၏။

မင်းခက်နှင့် နှစ်ဦးထဲပင် လွှာရည်ဆိုင် ထိုင်သည်များပင် ရှိလာပြီး မင်းခက်ကို ဆိုးရိမ်တတ်လာသည်။ မင်းခက်ကတော့ ကိုစိုင်း သွင်ပြင်ကို ကြည့်ပြီး သဘောကျနေသည်ဟုပဲ ကျွန်တော်ထင်မြင် ယူဆမိ၏။

ကျွန်တော်မိတ်ဆွေနှင့် ကျွန်တော်ကတော့ ခါတိုင်းလိုပါပဲ။ လူးကပ်(စ်) ၏ ပြောစကားများကို နားမလည်ရင်း ကျွန်တော်မှာ ဒူမြဲဒူ၏။ အံ့အားသင့်စရာလည်း ရှိခဲ့၏။ ငနဲက အလာကြီးဗျာ။ သူပြောသလို စကားလည်း တည်၏ ဟု ဆိုရမည်။

ထိုနေ့က ကျွန်တော်နှင့် လူးကပ်(စ်) ထီလာကန်ကြီးဘက် လမ်းလျှောက်သည့် ရက်။ ညနေ နေဝင်ရီတရောချိန်မှာ နှစ်ဦးသား လမ်းလျှောက်ကြရင်း ပိတ်ရက်တုန်းကအကြောင်း ပြောဖြစ်ကြ၏။ ထိုမှ ငနဲက ဇာတိပြလာ၏။

"မိတ်ဆွေ ဒီပိတ်ရက်တွေမှာ ဘာတွေလုပ်ဖြစ်ခဲ့လဲ"

"ထူးထူးဆန်းဆန်းမရှိပါဘူး။ မင်းကို ပြောဖူးသလိုပဲ စာဖတ်လိုက် စိတ်ပါရင် ကဗျာလေး မတတ်တခေါက် စပ်လိုက်နဲ့ ဒါပါပဲ။ နောက်တော့ ခရီးထွက်ဖြစ်တယ်။ တောင်ပိုင်းဘက် တော်တော်များများပဲ။ ဒါနဲ့ မင်းရော"

"ကျုပ်ပြောခဲ့တဲ့ အလုပ်လေ။ မှတ်မိတယ်မလား။ အဲ့ဒါပဲ ကျုပ် လုပ်နေခဲ့တယ်"

"အိုး--! အရှင်ဘုရား။ သံလွင်မြစ်ကို တံတားခင်းဖို့လို့တော့ မင်းမပြောနဲ့နော် လူးကပ်(စ်)"

ပြာလွင်လွင် အနောက်ဥရောပဆန်နေသည့် မျက်ဝန်းတွေက ထောက်ပနေရင်းဖြင့် လူးကပ်(စ်)၏ အသွင်ဟာ တည်ငြိမ်တာ ထက်ပိုနေခဲ့၏။ အမှန်ကို သူကြိုးစားခဲ့သည်တဲ့။

"ဒါနဲ့ မင်းအောင်မြင်ခဲ့လား"

"ရောက်မလာနိုင်ခြင်းတွေမှာ မအောင်မြင်ဘူးပေါ့ မိတ်ဆွေလေး"

"ကားလမ်းတွေ ပေါက်နေတာပဲ လူးကပ်(စ်)ရယ် လာချင် ကားလမ်းနဲ့ လာပေါ့"

အခြောက်တိုက် ရယ်သည့် လူးကပ်(စ်)မှာ ကျွန်တော့်ကို ဟားလိုက်သလိုနှင့် ပြီးမှ ဟန်ကို ပြန်ဖို့၏။

"မင်း ငါ့ကို ဟားလိုက်တာလား လူးကပ်(စ်)"

"နောက်ပြောင်ဖို့ မဝံ့ခြင်းတွေမှာ မင်းကို ကျုပ် မဟားရဲပါဘူး။ မင်းစကားကို ကျုပ် သဘောကျမိရုံပါ မိတ်ဆွေလေး"

ကားလမ်းနှင့် လာဟု ပြောလိုက်သည့် စကားတွေမှာ ဘာသဘာကျစရာ ပါရှိနည်း။ ဒါကိုတော့ လူးကပ်(စ်)တစ်ဦးထဲသာ သိလောက်မည်။ ထိုနှင့် ကျွန်တော်တို့နှစ်ဦး ထီလာကန်ရေပြင်ကြီးကို ကြည့်ရင်း ခဏမျှ တိတ်ဆိတ်သွားကြ၏။ လူးကပ်(စ်)ကတော့ သူ့ပုံအတိုင်း ရေပြင်ကြီးကို စူးစိုက်ကြည့်ရင်း တစ်ခုခုကို လေးလေးနက်နက် တွေးတောနေဟန်လည်း ရှိ၏။ ကျွန်တော်လည်း အနည်းငယ် အသက်ရှုရှောင်အောင် လေကို တဝကြီး ရှုရှိုက်ရင်း အရှေ့တည့်တည့်ကိုသာ ကြည့်နေလိုက်၏။ ကျွန်တော့်မှာ ဆိုစကားတွေမှ မရှိတော့ပဲ။

"မိတ်ဆွေ စိတ်ကူးရှိတဲ့ အရပ်တွေက ဘယ်ဒေသတွေလဲ"

အကြာကြီး နေမှ ကြားလာရသည့် စကားလုံတွေမှာ လူးကပ်(စ်)က ကျွန်တော်သွားချင်သည့် စိတ်ကူးရှိရာတွေကို မေး၏။ ကျွန်တော်လည်း ဖြေခဲ့၏။

ကျွန်တော် ဒုတိယနှစ် ဖြေပြီးသည့်ကျောင်းပိတ်ရက် တစ်ရက်၌ဖြစ်၏။ ခြံရှေ့၌ ရောက်ရှိလာသော ကားတစ်စီးကြောင့် ကျွန်တော် အပေါ်ထပ်ရှိ ကျွန်တော့်အခန်းမှ စာဖတ်နေရင်း အကြည့်ပို့မိ၏။ ဖေဖေ၏ ကားမဟုတ်၍ ကျွန်တော်ဂရုမစိုက်ပဲ ရှိနေလိုက်၏။ ဖေဖေ၏ ကားမှာ ဂျစ်ကားမဟုတ်။ အခုရှိနေသည့် ကားက ဂျစ်ကားကြီးပင်။ မေမေ့စီလာသည့် ဧည့်သည်ဟုပင် ကျွန်တော် မှတ်ယူလိုက်၏။

မကြာလိုက် မေမေ၏ ခေါ်သံကြားလာ၍ ကျွန်တော် အောက်ထပ်သို့ ဆင်းလိုက်၏။ ထိုမှ ကျွန်တော်၏ နှလုံးခုန်နှုန်း ပြန်ထွက်မတတ် အခုန်မြန်နေသည်ဆိုတာ ကျွန်တော် သတိပြုမိ၏။ ရောက်ရှိလာသူက ကျွန်တော့်ကို ခုံပေါ်မှ နေရင်းမှပင် ကြည့်၏။ ကျွန်တော်သူ့ကို ပြုံးပြရင်း ထိုခုံနားထိ တိုးသွားလိုက်၏။

မေမေကတော့ တစ်ခုခုနှင့် ညှော်ခံဖို့ အန်တီကြီးကို အခေါ်ပြော နေသည်။

"လူးကပ်(စ်) မင်းဘယ်လို ရောက်လာတာလဲ"

"တံတားထိုး/ဖောင်ထိုးပြီး ရောက်လာခဲ့တာ"

"မင်းရဲ့ ဂျစ်ကားက တခွတာပြနေတယ်။ ဟော့ကောင်--!"

ထိုမှ ငနဲက တစ်ချက်ပြုံးရင်း

"မိတ်ဆွေ ပြောသလို လမ်းပေါက်တဲ့ ကားလမ်းအတိုင်း လာတာ" ဆိုပြီး ပြော၏။

ပြုံးလိုက်တာကလည်း ခဏလေးပင် တန်းကို တည်သွား၏။

"ငါနဲ့ ခရီးထွက်ဖို့ မိတ်ဆွေလိုက်ခဲ့ချင်ရဲ့လား"

လူးကပ်(စ်)၏ ဒွဲပြောလာခြင်းမှာ မေမေလည်း အနားတွင် ရှိရှ် ကျွန်တော့်ကို ကြည့်၏။

ကျွန်တော် စိတ်မလုံတော့။ ဘာကြောင့်မှန်းမသိ ကျွန်တော့် စိတ်တွေ လှုပ်ရှားနေ၏။ အဲ့တုန်းက ကျွန်တော့်ရှက်နေခဲ့သည် ထင်၏။ ကျွန်တော့် နားရွက်ဖျားတွေ ရဲနေ၏တဲ့။ ဒါကလည်း လူးကပ်(စ်)ပြောရျပဲ သိခဲ့တာ ဖြစ်၏။

"နားရွက်တွေ ရဲလာတယ်။ နေမကောင်းဘူးလား မိတ်ဆွေလေး"

လက်တစ်ဖက်ကပါ နဖူးပေါ်ရောက်ရှိလာခြင်းမှာ ကျွန်တော် အနောက်သို့ တိုးသွားမိ၏။ လူးကပ်(စ်)ကတော့ ထုံးစံအတိုင်းပင် ကျွန်တော့်ကို စိုးရိမ်ပေးနေ၏။

"ရတယ် ဘာမှမဖြစ်ဘူး "

ကျွန်တော်ထိုလောက်သာပြောပြီး လူးကပ်(စ်)၏ စိုးရိမ်စိတ်ကို ဖျောက်လိုက်၏။ အချိန်ကိုက်ဆိုသလို အန်တီကြီး၏ ဂျင်းလှော်ရည် ပူပူလေးကလည်း ရောက်ရှိလာ၍ လူးကပ်(စ်)ကို ထို လှော်ရည်လေး နှင့် ခံတွင်းရှင်းခိုင်းလိုက်၏။

ဒီမှ မေမေက စကားစပြီး ကျွန်တော့်အပေါ်မှာ ဂရုစိုက်ပေးတဲ့ လူးကပ်(စ်)လို သူငယ်ချင်းရှိသည်ကို ဝမ်းသာကြောင်းပြော၏။ ပြီးမှ လူးကပ်(စ်)၏ လာရင်းကိစ္စကို မေး၏။

"ကျုပ်--! အဲ--! ကျွန်တော် မိတ်ဆွေနဲ့ ခရီးသွားဖို့ မိတ်ဆွေလေးကို လာခေါ်တာ အန်တီ"

လူးကပ်(စ်)လက်သုံးစကားမှာ မေမေက အစအဲ့သြပြီး နောက်ပိုင်းတွင်တော့ ပြုံးသားပြုံး၏။ လူးကပ်(စ်)က ကျွန်တော် ဟု ပြောင်းသုံးလိုက်သည်လေ။ ကျွန်တော့်အဖြေကို စောင့်နေကြသည့် မေမေနှင့် လူးကပ်(စ်)မှာ ကျွန်တော့်ကို ကြည့်လာ၏။ ထိုမှ မေမေက

"သား--! သားသူငယ်ချင်းနဲ့ လိုက်သွားချင်သလား"

ဆိုပြီး မေးလာ၏။ အိမ်တွင်းအောင်းနေရပြီး အပြင်မထွက်ရတာ ကြာပြီဖြစ်သည့် ကျွန်တော့်မှာ လူးကပ်(စ်)နှင့် လိုက်သွားချင်၏။ ထို့ကြောင့် ကျွန်တော် ခေါင်းညိတ်ခဲ့၏။ ထည့်စရာရှိတာတွေ ထည့်အုံးမည် ဆိုပြီး ကျွန်တော်အပေါ်ထပ် တက်တော့

လူးကပ်(စ်)ကို လိုက်ချင် လိုက်ခဲ့ဖို့ ဆို၏။ သို့သော် ကိုယ်တော်ချောက မလိုက်ခဲ့။ ဘာပြောတယ်မှတ်လဲ။

"အန်တီနဲ့ စကားပြောအုံးမယ်တဲ့"

လူးကပ်(စ်) မေမေ့ကို ဘယ်လို သိမ်းသွင်းလိုက်သည်လဲတော့ မသိ မေမေ ကျွန်တော့်ကို စိတ်ချနေ၏။ ပိုထူးဆန်းနေသည်က လူးကပ်(စ်) ကိုပင် အိမ်ကို အမြဲ မကြာခဏ လာဖို့ ဖိတ်နေပြန်၏။ မေမေ့ လုပ်ပုံကြီးမှာ မသိရင် သမီးနှင့် သားမက် အိမ်လည်လာပြီး ပြန်ကြ၍ နှုတ်ဆက်နေသည့်အတိုင်း။ အဲ့တုန်းကလည်း ကျွန်တော် ထိုအတွေးကြောင့် ရယ်မိခဲ့၏။ အခုလည်း ရယ်နေ၏။

"ဟိုက မိတ်ဆွေရဲ့ အမလား"

"အင်း--! ဟုတ်တယ်"

ခြံထဲ ပန်းချီဆွဲနေသည့် မမကို မြင်ပြီး မေးလာသည့် လူးကပ်(စ်)။ သေချာကြည့်ပြီးမှ ကားပေါ်သို့ တက်သွားပြီး ကျွန်တော့်ကို တက်ဖို့ ဆို၏။

"တက်လေ--"

"အင်--! အင်း--!"

ပန်းချီဆွဲလျှင် အခြားအာရုံမထားတတ်သည့် မမမှာ ကျွန်တော် နှုတ်ဆက်မှ ကျွန်တော့်ကို ကြည့်ပြီး နှုတ်ဆက်၏။ မစပ်စု/ မဝေဖန်တတ်သည့် မမမှာ အနေအေးသူ ဆိုလည်း မမှား။ ကျွန်တော် လူးကပ်(စ်)နှင့် လိုက်ပါသွားတာကို ကြည့်သာကြည့်ပြီး ပန်းချီကိုသာ ဆက်ဆွဲ၏။

"ဘယ်လဲ လူးကပ်(စ်)"

"secrect ---"

" မပြောဘူးပေါ့"

ခေါင်းညိတ်ပြလာသည့် လူးကပ်(စ်)မှာ အမှန်ပင် မပြောမည့် ဟန်နှင့် ရှိ၏။

"မင်း ငါ့မေမေကို ဘာသွားပြောလိုက်လို့ မင်းနဲ့ စိတ်ချလိုက်တာလဲ လူးကပ်(စ်) ။ မင်း အပြောစွမ်းရည်ကတော့ စံပဲကွာ။ ရှေ့နေ မဖြစ်ခင်ထဲက စကားကြွယ်နေတာ"

ထိုအခါ လူးကပ်(စ်)က ကားကိုသာ ဂရုတစိုက်မောင်းရင်း အနွေးဝတ် ပါလားဟု မေး၏။

"အနွေးဝတ်ဘာလုပ်ဖို့လဲ လူးကပ်(စ်)"

"မေးတာသာဖြေပါ။ ပါလား မပါဘူးလား"

"မပါဘူး"

ကားကို ရပ်ပြီး လူးကပ်(စ်) ဆိုင်တစ်ဆိုင်ထဲသို့ ဝင်သွား၏။ ပြန်အလာတွင် သိုးမွေးအပေါ်ဝတ်ကြီး ပါလာ၏။ ပြီးတော့ ကျွန်တော့်ကို ပေး၏။ ထို့နောက်တွင် ကျွန်တော်တို့ နှစ်ဦး ခရီးဆက်ကြ၏။ ထိုအချိန်၌ ကျွန်တော် သိရှိသွားသည်လည်း ရှိခဲ့၏။ လူးကပ်(စ်) တောင်ကြီးမြို့မှ မထွက်သေးသည်မှာ ကျွန်တော့်ဖို့ အနွေးဝတ် မဝယ်ပေးရသေး၍ ဟူ၍။

"သိပ်မဆိုးရိမ်နဲ့။ ကျုပ်အလိမ်အညာကောင်မဟုတ်ဘူး။ ဒါကြောင့်လည်း မိတ်ဆွေ မေမေက ကျုပ်နဲ့ စိတ်ချပေးလိုက်တာ။ တောင်ပိုင်း စော်ဘွားတစ်ဦးရဲ့ သားကို ပြန်ပေးဆွဲရလောက်သည်ထိ ကျုပ်မမိုက်မဲသေးဘူး မိတ်ဆွေလေး။ ကျုပ် ဇာတိကအစ

မိတ်ဆွေ မေမေ အကုန်သိတာမလို့ မဆိုးရိမ်နဲ့။ ကျုပ်ကို ယုံလို့ရတယ်။ ဟုတ်ပြီလား"

ထိုစကားများနှင့် ကျွန်တော် လူးကပ်(စ်)ကို စိတ်ချသွား၏။ လူးကပ်(စ်)ကို မကြောက်ပေမယ့် အနည်းအကျဉ်းတော့ စိုးရမ် သည်။ သူက သွားမည့် နေရပ်မှ မပြောပဲ။

အိပ်လိုက် /စားလိုက်နှင့် ကျွန်တော် လူးကပ်(စ်) ခေါ်ဆောင် သွားသည့် နေရပ်သို့ ရောက်ရှိသွားခဲ့၏။ တကယ်ပါဗျာ၊ အဲ့ဒီ့တုန်းက ကျွန်တော့်လောက်ပျော်နေမည့် လူသားဆိုတာ မရှိလောက်ဘူး ထင်ရလောက်အောင်ပင် ကျွန်တော်ပျော်နေမိ၏။

"အောက်ချင်းငှက်နဲ့ တောင်ဇလပ်ပျော်ရာမြေ။ တစ်ထီးတစ်နန်း နဲ့ မင်းတွေ စိုးမိုးခဲ့တဲ့ ယဉ်ကျေးမှုနယ်မြေ ။ အဲ့ဒီ့ အရပ်တွေကို ငါအသွားချင်ဆုံးပဲ လူးကပ်(စ်)"

ကျွန်တော်ပြောခဲ့သလိုပင် လူးကပ်(စ်)က ကျွန်တော် စိတ်ရှိခဲ့ သည့် နေရပ်သို့ ခေါ်ဆောင်လာပေးခဲ့၏။ ထိုမှ လူးကပ်(စ်) အပေါ်ထပ် ဘာကြောင့် ဝယ်ပေးသည် ဆိုတာကိုလည်း ကျွန်တော် သိရှိခဲ့၏။ ချင်းတောင်တန်းတွေက အအေး

ပိုသည်လေ။ ဟုတ်ပါတယ်။ ခင်ဗျားတို့ ထင်နေသလိုပဲ ကျွန်တော် ချင်းတောင်တန်းကို ရောက်ရှိနေခဲ့၏။ ဆရာမပုညခင်၏ "တောင်တန်းတွေ၏ အလွန်" ဖတ်ပြီး သွားချင်ခဲ့သည့် ကျွန်တော်၏ စိတ်ကူးစိတ်သန်းကြီးကို လူးကပ်(စ်)က ဖြည့်ဆည်း ပေးခဲ့၏။

ကျွန်တော် ချင်းတောင်တန်းမှာ နှစ်ရက် ကြာမြင့်ခဲ့၏။ "တောင်တန်းတွေ၏ အလွန်" ဝတ္ထုတွင်ပါရှိသော ဇာတ်ဆောင် "နွမ်" ရပ်ခဲ့သည့် လေထန်ကုန်းတွင်လည်း ကျွန်တော်ရပ်ခဲ့၏။ ဝတ္ထုဖတ်ထဲက စိတ်ကူးနှင့် ရောက်ရှိနေခဲ့ခြင်းမှာ လက်တွေ့ တွင်တော့ ကျွန်တော်အတိုင်းထက်အလွန်ပင် စိတ်လှုပ်ရှားနေ၏။ လေအတိုက် ဖော့နေခဲ့သည့် ဘိန်းဘီပန်းလေးတွေကိုလည်း ကျွန်တော်တို့ ထိကြည့်ခဲ့သည်။ "ဆားဗူးတီး" ဆိုသည့် ဒေသထွက် အစားအစာကိုမြည်းစမ်းချင်ခဲ့သည်မှာ ဝတ္ထုဖတ်ပြီးထဲက ဖြစ်၏။ ထိုနှင့် ကျွန်တော် “ဆားဗူးတီး” အပြင် တောင်ဇလပ်သုပ်ကို လည်း မြည်းစမ်းကြည့်ခဲ့၏။ "ချင်းတောင်တန်းမှ ကြိုဆိုပါ၏" သီချင်းကို ဆိုရင်း ကျွန်တော် "နွမ်နှင့် မာန်" ၏ အချစ်ကို ပြန်လည်တသမိ၏။ ထိုအခါ လူးကပ်(စ်)က ခေါင်းရည် တစ်ကျိုက်

ပေး၏။ ကျွန်တော် ထိုခေါင်းစဉ်ရည်သောက်ပြီး လူးကပ်(စ်)နှင့် ညလုံးပေါက် စကားပြောဖြစ်ခဲ့၏။ ကျွန်တော်တို့နှစ်ဦး ရိုရေကန် သို့လည်း ရောက်ဖြစ်ခဲ့၏။ ရိုရေကန် သမိုင်းကြောင်းကို ပြောတော့ လူးကပ်(စ်)က အာရုံ စူးစိုက်ရင်းနှင့်သာ နားထောင်၏။

ကျွန်တော်၏ စိတ်ရှိရာဒေသတွေကို ပို့ဆောင်ပေးသည့် လူးကပ်(စ်)မှာ မြန်မာတို့၏ အမြတ်တနိုးရှိရာမြေသို့လည်း ပို့ဆောင်ပေးပြန်၏။ ကျွန်တော့်အလို ဖြည့်ပေးသည့် လူးကပ်(စ်) မှာ ကျွန်တော်ပျော်နေတာကို ကြည့်ပြီး သူကလည်း ပျော်နေ၏။ အရပ်ဒေသတွေကို စာအုပ်တွေမှ ရောက်သွားတတ်သည့် ကျွန်တော့်မှာ ဤအရပ်ကို သွားချင်ခဲ့သည်မှာလည်း စာအုပ် လေးတစ်အုပ်ကြောင့်ပင်။

ထိုစာအုပ်မှာ အခြားမဟုတ်။ ဆရာမပုညခင်၏ "လက်ကျန် လရောင်" စာအုပ်လေးပင် ဖြစ်၏။

ပုဂံ၏ သမိုင်းကြောင်းများအပြင် ရှေးဟောင်းစေတီပုထိုးများ၏ သမိုင်းကြောင်းများကိုပါ ရေးဖွဲ့ထား၍ ဖတ်သားခဲ့ရာမှာများစွာ ဗဟုသုတရခဲ့၏။ ဇာတ်ဆောင်နှစ်ဦးစလုံး သဘောကျခဲ့သည့်

ကျွန်တော့်မှာ မင်းနန်းသူရွှာဟု အမည်ကြားလိုက်လျှင်ပင် မင်းနန်းသူရွှာသူလေး "မြကျေးရုံ" ကို သတိရ၏။ ယွန်းလက်ကောက်လေးတွေ မြင်လိုက်ရလျှင်လည်း ထိုနည်းတူစွာပင်။ မြကျေးအတွက် ကမ္ဘာပေါ်တွင် တစ်ခုထဲသာရှိသော ယွန်းလက်ကောက်ကို လုပ်ပေးခဲ့သည့် ဆူးပုပ်(ရန်ပြေအေး) ဆိုသည့် ကောင်လေးတစ်ဦးကို ကျွန်တော် အမှတ်ရမိ၏။ စာအုပ်နှင့် ခရီးရောက်လာခဲ့သည့် ကျွန်တော့်မှာ လက်တွေ့ရောက်ခဲ့ရသည့် အခါတွင်တော့ ဤမြေကြီး၏ ရင်သပ်ရှုမောဖွယ်ရာများကို ကြည့်ရင်း ပို၍ပင် ရင်သပ်ရှုမောလာ၏။

ကျွန်တော် သွားချင်ခဲ့သော ဘုရားများသို့ သွားပြီး ဦးခိုက်ကာ ဖူးမျှော်ခဲ့၏။ ဒေသထွက် အစားအစာများကိုလည်း စားခဲ့၏။ တူရင်းတောင်ခြေ၌ ဝင်တော့မည့် နေမင်းကြီးကိုလည်း အာနန္ဒာဘုရားပေါ်မှနေ၍ လူးကပ်(စ်)နှင့် အတူ ကြည့်ခဲ့၏။ နေဝင်ချိန် အလှတရားမှာ ကျွန်တော် ရင်သပ်ရှုမောနေရင်း လူးကပ်(စ်)က စကားလုံးပေါင်းများစွာကိုလည်း ပြောထွက်ခဲ့၏။ ထိုစကားလုံးများတွင်တော့ ကျွန်တော် တစ်လုံးမျှ ပြောမထွက်ခဲ့ပါ။ ကျွန်တော် နားမလည်ခဲ့သည်ဆို ပိုမှန်ပါ၏။

"မိတ်ဆွေ--! ဆရာ မြသန်းတင့် ဘာသာပြန်ဆိုထားတဲ့ "The FAR PAVILIONS" (ရွှေပြည်တော်မျှော်တိုင်းဝေး) ဆိုတဲ့ စာအုပ်ကို ဖတ်ဖူးလား"

"မဖတ်ဖူးဘူး လူးကပ်(စ်)။ ကြားတော့ ကြားဖူးတယ်။"

"ကျုပ်တို့ အဖြစ်က အဲ့ဒီခေါင်းစဉ်ကြီးအတိုင်းပဲ မိတ်ဆွေလေး။ ရွှေပြည်တော်ကြီးကို မြင်နေရပြီဒါပေမယ့် မရောက်နိုင်သေးဘူး။ အဲ့လို့ပေါ့။

ကျုပ်နဲ့ မိတ်ဆွေ နီးနေပြီလို့ ထင်နေရပြီ။

ဒါပေမယ့် မနီးသေးဘူး။ နီးမလိုလိုနဲ့ ဝေးနေခြင်းတွေမှာ ကျုပ်နဲ့ မိတ်ဆွေကြား လောကီရဲ့ အလိုတွေက ခြားနေတယ်။ လောဘ/ ရမက်/ မောဟတွေပေါ့။"

လူးကပ်(စ်)၏ နွမ်းလျလျ စကားလုံးတွေမှာ ကျွန်တော်တော့ အဖြေရှာမထွက်ခဲ့။ ကျွန်တော်နှင့် လူးကပ်(စ်) ပုဂံမြေတွင်လည်း နှစ်ရက်ကြာမြင့်ခဲ့၏။ နောက်တော့ ကျွန်တော်လည်း အိမ်သို့ ပြန်ခဲ့၏။

တက္ကသိုလ် အကြောင်းပြောလျှင် ပြောစရာတွေ မကုန်ပါ။ ထို့ကြောင့် ကျွန်တော်မမေ့နိုင်မည့် အဖြစ်အပျက်လေးများကိုသာ ပြောတော့မည်။ ကျွန်တော်၏ တက္ကသိုလ်ကျောင်းသားကာလ ဟာ နှစ်အားဖြင့် လေးနှစ်ရှိ၏။ အဝေးသင်ဖြစ်၍ တစ်နှစ်ကို နှစ်လပဲ တက်ရ၏။ ဒီလိုနှင့် ကျွန်တော် ဒုတိယနှစ်ပြီး၍ တတိယ နှစ်သို့ ရောက်လာခဲ့၏။ စားကြိုစားသည့် လူးကပ်(စ်)မှာတော့ အမည်လည်းကြီးပြီး ဆရာ/မတွေ၏ အချစ်တော်တစ်ဦးဆိုလည်း မမှားခဲ့။ ကျွန်တော်မမေ့နိုင်သော အဖြစ်အပျက်လေးဟာ ထိုတတိယနှစ်မှာပဲ ဖြစ်ခဲ့၏။

ကျွန်တော် တတိယနှစ် ကျောင်းသို့ မလာခင်မှာပဲ မမကို မြောက်ပိုင်းစော်ဘွား သားတော်တစ်ဦးနှင့် စေ့စပ်ပေး၏။ ကျောင်း တက်ဖို့ တစ်လလောက်လိုနေသေး၍ ကျွန်တော် အိမ်မှာ အေးဆေးနေသည့် အချိန်ဆိုလည်းမမှားချေ။ လူးကပ်(စ်)က လည်း အိမ်သို့ ကြုံရင်ကြုံသလို ဝင်၏။ မမေ၏ ဖိတ်ခေါ် ချက်လည်း ရှိသည်ကိုး။

မမ၏ စေ့စပ်ပွဲရက်။ တောင်ပိုင်းစော်ဘွား သမီးနှင့် မြောက်ပိုင်း စော်ဘွားသား ဆိုတော့ စေ့စပ်ပွဲကြီးကလည်း ရှမ်းပြည်တစ်ခွင်မှာ ဘယ်ပြောကောင်းမလဲ အမည်ကြီးတာပေါ့။ မမ စေ့စပ်တော့မည် ဆိုတော့ ကျွန်တော် ဝမ်းနည်းသည်။ သို့နှင့် ကျွန်တော် သိပ်ပြီး မရွှင်မပြနိုင် မှိုင်နေ၏။ တစ်ဦးတည်းသော အမလေ။

ကျွန်တော် နေမြောတာပေါ့။ ဒါနှင့် ကျွန်တော် စေ့စပ်ပွဲကို မတက်တော့ပဲ အိမ်အပေါ်ထပ်၌သာ နေ၏။ မကြာလိုက်ပါ အသံတွေကြားလာရ၏။ ကောင်လေးဘက်က လူတွေ ရောက်လာ ကြပြီဖြစ်၏။ လူကြီးတွေ၏ စကားပြောသံ၊ ရယ်သံများနှင့်အတူ ကာလသား/သမီးပျို များ၏ အသံများကိုလည်း ကြားလာရ၏။ ထိုအသံတွေကို လျစ်လျူရှုရင်း ကျွန်တော် ပြတင်းမှတစ်ဆင့် ခြံထဲသို့ ကြည့်လိုက်၏။ လူးကပ်(စ်)များ လာလို လာငြား ဆိုပြီးတော့ပေါ့။ ဒီကောင်က ထင်ရင်ထင်သလို ပေါက်လာ တတ်တယ်လေ။ ဒါကြောင့်ပါ။

"ခွန်စဝ်--! ခွန်စဝ်--"

ကိုစိုင်း၏ အသံကြားလာရ၏။ ထိုနှင့် ကျွန်တော် ပြတင်းနားမှ ထပြီး လေးကန်စွာနှင့်ပင် တံခါးစီသို့ ဦးတည်လိုက်၏။

"ခွန်စဝ် --! မြောက်ပိုင်းစော်ဘွားသား။ မဟုတ်သေးဘူး--! လူးကပ်(စ်) အောက်မှာ သောင်းကြမ်းနေတယ်"

ကိုစိုင်း၏ မရှင်းသော စကားများစွာကြောင့် ကျွန်တော် နားမလည်ရင်းနှင့်သာ အောက်ထပ်သို့ ဆင်းလိုက်၏။ ကိုစိုင်းပုံကြီးက အပူတပြင်းကြီးနှင့်လေ။ ကျွန်တော်လည်း စိုးရိမ်တာပေါ့။ သို့ပေမယ့် "လူးကပ်(စ်) /မြောက်ပိုင်း စော်ဘွားသား" စသည်မှာတော့ ကျွန်တော် ဒူနေ၏။

ကျွန်တော် အောက်ထပ်သို့ ရောက်ချိန်၌ အောက်ထပ်ရှိ လူအားလုံး အသံတိတ်နေကြပြီး ကျွန်တော့်ကို ကြည့်လာ၏။ မတ်တပ်ရပ်ပြီး ကျွန်တော့်ကို ကြည့်နေသည့် ပြာလဲ့လဲ့ မျက်ဝန်းတစ်စုံမှာ ကျွန်တော် ကိုစိုင်းပြောသည့် စကားလုံးများကို သိရှိသွားခဲ့၏။ ကိုစိုင်း ပြောသည့် "လူးကပ်(စ်)/ မြောက်ပိုင်း စော်ဘွားသား" ဆိုတာ အခြားမဟုတ်ပေ။ လူးကပ်(စ်)မှာ မြောက်ပိုင်းစော်ဘွား၏ သားတော်တစ်ဦး ဖြစ်နေခြင်းကြောင့်ပင်။

အကြောင်းကြောင်းကြောင့် စေ့စပ်ပွဲလည်း ပျက်သွားခဲ့၏။ မမကို စေ့စပ်ပေးမည့်သူမှာ လူးကပ်(စ်)နှင့် ဖြစ်ပြီး လူးကပ်(စ်) စေ့စပ်ချင်တာက ကျွန်တော်တဲ့လေ။ ထိုနှင့် အကြောင်းကိစ္စတွေလည်း မြောက်များစွာ ဖြစ်ပျက်ခဲ့၏။ မမကလည်း ထိုစေ့စပ်ပွဲကို ဖျက်ခဲ့၏။ လူးကပ်(စ်) ကျွန်တော့်ကို စေ့စပ်ချင်သည် ဆိုသည် ကြောင့်တော့ မဟုတ်။ မမ၏ ရင်ခုန်သံတွေကို ကြီးစိုးထားသည့်သူမှာ သက်သက်ရှိခဲ့၏။ ထိုသူက မြောက်ပိုင်းစော်ဘွား၏ သားတော်ကြီးပင် ဖြစ်၏။ ထို့ကြောင့် မမစေ့စပ်ပွဲကို လက်ခံလိုက်တာလည်း ဖြစ်နိုင်၏။

ဒီလိုနှင့် တစ်ရက်။ ထိုနေ့က ကျွန်တော် ကျောင်း၌ ရှိနေသောရက်။ လူးကပ်(စ်)၏ ချိန်းဆိုချက်ကြောင့် ကျွန်တော် ကျောင်း၏ ကန်ပါတ်လမ်း ခုံလေးတွင် စောင့်နေခဲ့၏။

"ရောက်လာသားပဲ။ ကျုပ်က ရောက်မလာတော့ဘူးမှတ်တယ်"

"မိတ်ဆွေ သံယောဇဉ်ပဲပြောပါတော့။ အင်း--! အဲ့ဒီ သံယောဇဉ်လေးရှိသေးလို့ ငါလာတာ"

"မိတ်ဆွေ သံယောဇဉ်တဲ့လား မိတ်ဆွေ။ ကျုပ်နဲ့ မင်းကြားက သံယောဇဉ်ကြိုးက ဒီလောက်ပဲလား"

"အင်း--! ဒီလောက်ပဲ"

လူးကပ်(စ်)ကရယ်ရင်း မတ်တပ်ရပ်နေလျှက်နှင့်ပင် ကျောင်း၏ ရေကန်ကြီးကို ကြည့်၏။ အကြည့်တွေကတော့ ထုံးစံအတိုင်းပင် တည်နေ၏။

"မိတ်ဆွေ ဘာလို့ ကျုပ်ကို ရှောင်နေတာလဲ။ ကျုပ်က မကောင်းတဲ့ ကောင်ကြီးလား။ ကျုပ်က --! ကျုပ်က--! မိတ်ဆွေလေးကို ချစ်ခဲ့ရုံပဲ ရှိခဲ့တာပါ။ ဘာလို့ ကျုပ်မှ ဒီလို ဖြစ်ရတာလဲ"

အကြည့်တွေ တည်ရင်း ပြောနေသည့် လူးကပ်(စ်)မှာ ဒေါသထွက်နေဟန်လည်း ရှိ၏။ သူဒေါသထွက်မှ ကျွန်တော် ရှောင်နေခဲ့တာလည်း မှန်၏။ တစ်ခန်းထဲ အတူနေပြီး ကျွန်တော် လူးကပ်(စ်)ကို အမြဲရှောင်၏။

"ငါ့ကို လာပြီး ဒေါသမထွက်နဲ့ လူးကပ်(စ်)။ ဩော်--!မှားလို့၊ မင်းနာမည်က လူးကပ်(စ်)ဂျူဝါလား မှ မဟုတ်ပဲ။ ဟုတ်တယ် မလား (ဂုဏ်သူရိန်မာန် မာဂတင် ထွဋ်ရှိန်စဝ်)။ "

အမည်ကို ခေါ်ပေးလိုက်တော့ လူးကပ်(စ်) ကျွန်တော့်ကို ကြည့်လာ၏။ ထို့နောက်တွင်

"ကျုပ်ကို အဲ့နာမည်မခေါ်နဲ့။ အခြား နာမည် ကြိုက်သလို ခေါ်လို့ရတယ်။ အဲ့ဒီ နာမည်သာမခေါ်နဲ့"

ဆိုပြီး ပြောလာရင်း လူးကပ်(စ်) ၏ ပြာလဲ့လဲ့ မျက်ဝန်းတွေ မှိုင်းညို့လာ၏။ လူးကပ်(စ်) မျက်ရည်တွေ ကျနေခဲ့၏။ သို့သော် ကျွန်တော် မဖေးမခဲ့ပါ။ ကျွန်တော့်ကို လူးကပ်(စ်) ညာနေခဲ့သည် လေ။ ကျွန်တော် သူ၏ ဟားခြင်းကို ဘယ်လောက်ထဲကများ ခံနေခဲ့ရမလဲ။ ထို့အတွက် ကျွန်တော် မဖေးမခဲ့ပါ။

"ညာတယ်။ လိမ်တယ်။ ဘယ်စကားကအမှန်လဲ။ လောကကြီးမှာ လူတိုင်းဟာ မျက်နှာဖုံးတွေစွတ်ထားတယ်။ အဲ့ဒီ မျက်နှာဖုံးတွေ ထဲမှ ကျုပ် မျက်နှာဖုံးမရှိတဲ့ မိတ်ဆွေလေးကို တွေ့ခဲ့တယ်။

ထွေးပွေ့ပေးခဲ့တယ်။ ယုယပေးခဲ့တယ်။ မိတ်ဆွေတစ်ဦးအဖြစ် ကျုပ်လိုကောင်ကို အသိအမှတ်ပြုပေးခဲ့တယ်။

ကျုပ်ကို လူတိုင်းအားကျတယ်။ မြောက်ပိုင်းစော်ဘွားသား ငယ်လေး တဲ့လေ။

သူတို့မသိဘူး။ ကျုပ်နေရတဲ့ ကမ္ဘာလေးကို သူတို့ မသိကြဘူး။ မမြင်ကြဘူး။ ဝေဖန်ကြတယ်။ ကဲ့ရဲ့ကြတယ်။

ချီးမွန်းကြတယ်။ ကျုပ်လိုချင်တာ မေတ္တာ။ မေတ္တာဓါတ်လေး။ ဒါလေးလိုချင်ခဲ့တဲ့ ကျုပ်ရဲ့တောင်းဆိုခြင်းတွေမှာ ရရှိလာတာ တွေက လျစ်လျူရှုခြင်းပဲ။ အခု မိတ်ဆွေလေးကပါ ကျုပ်ကို လျစ်လျူရှုပြီပေါ့။ ဟုတ်လား--?။ မိတ်ဆွေလေး။ နှုတ်မဆက် ချင်ဘူး။

ဒါပေမယ့် မိတ်ဆွေလေးနဲ့ နီးဖို့ ကျုပ် နှုတ်ဆက်ရအုံးမယ်။ နှုတ်ဆက်ခဲ့တယ် မိတ်ဆွေလေး။

ပြီးတော့ ကျေးဇူးလည်း တင်တယ်။ ကျုပ်ကို မေတ္တာတွေ တစ်ဝကြီး ပေးခဲ့လို့။

အခွင့်ရှိရင် ကျုပ်မိတ်ဆွေလေးရဲ့ ခိုနားရာ အရိပ်ရသစ်ပင်ကြီး တစ်ပင်တော့ဖြစ်ချင်ရဲ့၊ ဒါကလည်း အခွင့်ရှိမှပါ။ အခွင့်ရှိခဲ့ရင်ပေါ့"

ထိုစကားလုံးများနှင့် လူးကပ်(စ်) ကျွန်တော့်ကို

အမှန်ပင် နှုတ်ဆက်သွားခဲ့၏။ အစကတော့ ကျွန်တော်လည်း တစ်ရက်/နှစ်ရက် ပျောက်တာပဲဟု မှတ်ခဲ့၏။ နောက်မှ

"မမနန်း ခွန်စဝ်ကို ပြောစရာရှိတယ်။"

စသည်နှင့် မမနန်း၏ ပြောထွက်လာသည့် စကားလုံးတွေမှာ ကျွန်တော် ကြီးစွာသော နောင်တကို ရရှိခဲ့၏။ လူးကပ်(စ်)က ကျွန်တော် ထင်သလို မဟုတ်ခဲ့။ ကျွန်တော့်ကို မညာခဲ့။ သူပြောသည့် စကားလုံးများစွာဟာ စ/လယ်/ဆုံး အမှန်များပင် ဖြစ်၏။

ကျွန်တော်သိရှိခဲ့သော လူးကပ်(စ်)၏ အကြောင်းများဟာ ဤသို့ပင် ရှိခဲ့၏။ မိတဆိုးဖြစ်ခဲ့သည့် လူးကပ်(စ်) သူ၏ဖခင်စီသို့ ရောက်ရှိခဲ့၏။ ထိုအချိန်မှာ လူးကပ်(စ်) လသားအရွယ်ပဲ ရှိသေးသည်။ စော်ဘွားသားတော် ဖြစ်သည့် လူးကပ်(စ်)မှာ

မိခင်မေတ္တာငတ်ခဲ့ရှာ၏။ စော်ဘွားကတော်မှာလည်း စော်ဘွား သား ဆိုသည့် အသိနှင့်သာ ထိုက်သင့်သလောက်ဂရုစိုက်ပေး၏။ သားကြီးဖြစ်သည့် လူးကပ်(စ်)၏ အကို နေမကောင်းဖြစ်ခြင်းမှာ ခေါင်းစဉ်က လူးကပ်(စ်)စီ၌ ရှိခဲ့၏။ ထိုထဲက လူးကပ်(စ်) သီပေါ ဟော်နန်းမှ သိန္နီသို့ ပြောင်းလာခဲ့၏။ ထိုအချိန်မှာ လူးကပ်(စ်)၏ အသက်ဆယ်နှစ်ကျော်သာ ရှိသေး၏။ ထို့ကြောင့်လည်း လူးကပ်(စ်)က သူ၏ဇာတိကို သိန္နီဟု မိတ်ဆက်ခဲ့တာ ဖြစ်၏။ လူးကပ်(စ်)၏ မေမေမှာ ဥရောပသူလည်း ဖြစ်၏။ ထို့ကြောင့် လူးကပ်(စ်)တွင် ဥရောပဆန်စွာရှိနှင့်သော ပြလဲ့လဲ့မျက်ဝန်းတွေ ရှိတာ ဆန်းတော့ ဆန်းမနေချေ။

ဒီနှစ် ကျောင်းတက်ရက်မှာ လူးကပ်(စ်) နှင့် ကျွန်တော်၏ အကြောင်းများကို တစ်ကျောင်းလုံး နီးနီးသိရှိသွားခဲ့၏။ သိသွားခဲ့ သည့် အကြောင်းအရာမှာ အခြားမဟုတ်။ လူးကပ်(စ်)က မြောက်ပိုင်းစော်ဘွားသား ဖြစ်ပြီး ကျွန်တော်က တောင်ပိုင်း စော်ဘွားသား ဟူ၍။ ထိုထဲ ထူးဆန်းလှသည်ကလည်း ရှိခဲ့၏။ မမနန်းမှာ လူးကပ်(စ်)၏ အမဝမ်းကွဲ ဖြစ်ပြီး မမနန်းမှာ လည်း စော်ဘွားအနွယ်တော် တစ်ဦးပင် ဖြစ်၏။ ထို့ကြောင့် ကျွန်တော်တို့

တစ်ဖွဲ့လုံး အံ့အားသင့်ခဲ့ရသလို မမနန်း လူးကပ်(စ်) အကြောင်း သိနေခဲ့သည်မှာလည်း မောင်နှစ်မ တော်စပ်၍ဖြစ်၏။

နှုတ်ဆက်စကားဆိုပြီး ထွက်သွားသည့် လူးကပ်(စ်)မှာ ဘွဲ့နှင်း သဘင်ထိရောက်မလာခဲ့ချေ။ မလာမှ သူလည်း တက္ကသိုလ် မြေတစ်ခုမှာ ပညာဆည်းပူးနေသည်ပဲ။ မမနန်းစီမှ ထပ်ဆင့်ကြား လာရသော စကားလုံးများအရ လူးကပ်(စ်) ပြည်ပ ထွက်သွား သည်ကို ကျွန်တော် သိရှိခဲ့ရ၏။

"လူးကပ်(စ်) အောက်စဖို့ဒ်ကို သွားပြီခွန်စင်။ ဟိုမှာပဲ စာလေ့လာ တော့မယ်ထင်တယ်။

လူးကပ်(စ်)ကျောင်းကို နှုတ်ဆက်သွားသည့် ထိုနှစ်မှာ ကျွန်တော် တို့ တက္ကသိုလ်ကြီးဟာလည်း ဒီဂရီကောလိပ်မှ မိတ္ထီလာ တက္ကသိုလ်ကြီး အဖြစ်သို့ ပြောင်းလဲသွားခဲ့၏။ ကျွန်တော်တို့ တက်သည့်နှစ်မှာ ကျွန်တော်၏ တက္ကသိုလ်က တက္ကသိုလ် အဆင့် မဟုတ်သေး။ ဒီဂရီကောလိပ်အဖြစ်သာ ရှိသေး၏။ တက္ကသိုလ် အဖြစ် ပြောင်းလဲခဲ့သော ထိုနှစ်ကို ကျွန်တော်မေ့မည် မဟုတ်ခဲ့။ မှတ်မှတ်ရရ ၂၀၀၁ ခုနှစ် ဖြစ်၏။

အဖူး/အငုံမှ ရေသောက်မြစ်ရှာခဲ့သည့် ကျွန်တော်၏ ဘဝ တစ်စစ်ချိုးဟာလည်း အပွင့်/အလွှာတွေ ဝေဆာရင်းနှင့် ရေသောက်မြစ် အမိတက္ကသိုလ်ကြီးကို နှုတ်ဆက်ခဲ့ရ၏။ ဘဝဇာတ်ခုံ အသီးသီးမှာ ကျင်လည်ရင်း ကျွန်တော်တို့သူငယ်ချင်း တွေဖြစ်ကြသည့် တစ်ခါက အမိတက္ကသိုလ်မှ သူငယ်ချင်းတွေ မှာလည်း ဘဝအသီးသီးကို ရောက်ရှိနေကြပြီ။ ယခုကျွန်တော်ပင် လျှင် ရန်ကုန်တက္ကသိုလ်ကြီးမှာ တာဝန်ထမ်းဆောင်နေသည့် ဆရာတစ်ဦးဖြစ်နေခဲ့ပြီ။ နှစ်တွေအလိုအရတော့ ကျွန်တော်ဟာ လည်း ဦးခေါင်းထက် ဆံဖြူကျိုးတိုးကျဲတဲ ပေါက်ရင်း ဇရာဟာ လည်း ပြသနေခဲ့ပြီ။ ဒါဆိုသူတို့ကော---။ ကျွန်တော် တသနေရင်းမှဖြင့် မျက်ဝန်းမှ အရည်ကြည်များ ပါးပေါ်စီးကျလာ သည်ကိုလည်း ခံစားမိလိုက်၏။

"မောင့် မိတ်ဆွေလေးတော့ တစ်ခါကတက္ကသိုလ်ကြီးကို သတိရ နေပြီထင်တယ်"

အောက်မေ့နေရင်း ကြားလာရသည့် အသံအတိုင်း ကျွန်တော် ခေါင်းပြားကို ကြည့်ရင်းနှင့်ပင် အသံပြုလိုက်၏။

"နှစ်ခါပြန် အောက်မေ့နိုင်ခြင်းတွေမှာ ဘယ်တုန်းကမှ သတိ လက်လွတ်မရှိခဲ့ဘူး မောင်။ အမိတက္ကသိုလ်ဆိုတာ နှစ်ခါပြန် အောက်မေ့ရလောက်အောင် လွမ်းမောစရာတွေ ပြည့်နေတဲ့နေရာ လေးမလား"

ထိုအခါ မောင်က ရယ်၏။ ကျွန်တော်၏ ပျံ့လွင့်နေသော အာရုံတွေမှာ မောင်က လက်ရှိသို့ ပြန်လည်ရောက်စေလိုက်၏။ မောင်ဆိုသည်မှာလည်း အခြားသူမဟုတ်ပေ။ အခေါ်အဝေါ်တွေမှ သင်တို့လည်း သိမြင်လောက်ပြီဟု ကျွန်တော်ထင်၏။ ဟုတ်ပါ တယ်။ သူပါပဲ။ ကျွန်တော်၏ နှစ်ယောက်မရှိနိုင်သော မိတ်ဆွေ။ တရားလွှတ်တော်ရှေ့နေကြီး ဦးလူးကပ်(စ်) ဂျူဝါးလား (သို့) ဦးဂုဏ်သူရိန် မာဂတင် ထွင်ဋ္ဌရှိန်စဝ်ပါပင်။ ကျွန်တော်တို့ အကြောင်းကိုတော့မမေးလေနှင့်။ လူးကပ်(စ်)၏ စကားတစ်ခွန်း အတိုင်းပါပင်။ သံလွင်မြစ်ကို တံတားထိုးရနိုင်ခဲ့သည်ဟုပဲ ပြောရမည်။ လူးကပ်(စ်) ကျွန်တော်နှင့် နီးစပ်ခဲ့၏။ များစွာသော အကြောင်းကိစ္စများ၏ နောက်မှာ ကျွန်တော်တို့နှစ်ဦး အတွက်

အေးချမ်းရာကို ရှာတွေ့ခဲ့သည့်နှယ် ကျွန်တော်တို့နှစ်ဦးဟာ အေးချမ်းရာကို ရှာတွေ့ခဲ့၏။ လမ်းဖြူတစ်ခုရဖို့ ကျောက်စရစ်နဲ့ ကပ်တရာ နိုင်မှ ဖြစ်သလို ဘဝဇာတ်ခုံ တစ်ခု စည်းချက်ညီညီ ရှိနိုင်ဖို့ဆိုတာကလည်း အချိန်တစ်ခုလောက်ထိတော့ ပေးဆပ်ရ စမြဲ။ ဒီလောက်ပါပဲ။

"album တောင် ဆွေးနေပြီ ။ ဓါတ်ပုံလေးတွေရော ဘယ်လို နေမလဲမသိဘူး"

မောင်က ကျွန်တော့်အရှေ့၌ ရှိနေသော ဗီရိုလေးထဲမှ album လေးကို ကြည့်ရင်း ဆို၏။

"ယူခဲ့လေ မောင် အတူကြည့်ကြတာပေါ့"

မောင်က album လေးကိုယူလာပြီး ကျွန်တော်၏ ဘေးခုံ၌ ထိုင်၏။ ထို့နောက် မောင့်၏ ရှည်သွယ်သွယ်လက်ချောင်း လေးများက ထို album ထက် တည်ရှိရင်း တစ်ပုံခြင်းစီ မောင်က ကြည့်၏။ မောင်နှင့် ကျွန်တော် စကားတွေလည်း ပြောကြ၏။ ရယ်ကြ၏။ မောကြ၏။ လွမ်းမောစရာတွေလည်း ပြော၏။

"ဒီမှာ ကြည့်ပါအုံး။ ဘုဏ်းမြတ်ကြီး ပြုံးနေတာ။ မောင်တော့ ဒီကောင် တည်တာ တစ်ခါမှကို မမြင်ဖူးဘူး။ ဒီကောင့်ကို မမနန်း ဘယ်လို သဘောကျသွားမှန်း မောင်တော့ မတွေးစတတ်တော့ ပါဘူးရယ်။ မမနန်းက တည်ကတည်နဲ့ "

"တည်တဲ့ အချိန်လည်း ရှိမှာပေါ့ မောင်ရယ်"

မောင်၏ တွေးစစကားမှာ ကျွန်တော်ပြုံးရင်းသာ ပြောလိုက်၏။ ထိုဓါတ်ပုံလေးက အခြားတော့မဟုတ်။ ပထမနှစ်၌ ရှိနေသော ကျွန်တော့်တို့ကို မှတ်တမ်းတင်ပေးခဲ့သည့် ဓါတ်ပုံလေးများသာ ဖြစ်၏။ ထိုပုံထဲတွင် မမနန်း/ဇူးဇူး နှင့် ငွေနှင်းက ထိုင်နေကြပြီး ကျွန်တော်/ ကိုစိုင်း/ မင်းခက်/ ဘုဏ်းမြတ်နှင့် လူးကပ်(စ်)တို့က သူမတို့၏အနောက်တွင် မတ်တပ်ရပ်နေခဲ့၏။ အနောက်က ကန်ရေပြင်ကြီးကို ကျောပေးထားပြီး ရိုက်ကူးထား၍ မိန်းကလေး သုံးဦးမှာ ကျောင်း၏ ကန်ပါတ်လမ်းအနားရှိ ခုံပေါ်မှာ ထိုင်နေတာ ဖြစ်၏။ ဘေး၌ ရှိနေသော ရေတမာ ပင်များကတော့ ထိုတုန်းက လေအတိုက် လွင့်နေဟန်ရှိ၏။ ပုံထဲမှာ ယိမ်းယိုင်နေ၏။

"ဒီနေ့ မောင်နဲ့ fight ရမယ့် ဥပဒေအရာရှိက ဘယ်သူမှတ်လဲ ။"

"ဘယ်သူလဲ မောင်"

"ဘယ်သူရှိမလဲ အနာဂါတ်မှာ ဥပဒေအရာရှိဖြစ်ဖို့ ကြိုးစားနေတယ်ဆိုတဲ့ လင်းခေးသားကြီးပေါ့"

"ကိုစိုင်းလား မောင်"

"အဟုတ်ပေါ့ မိတ်ဆွေလေး။ ပြီးတော့ အမိန့်ချမယ့် တရားသူကြီးကရော ဘယ်သူထင်လဲ"

"မောင်မပြောပဲ ငါက ဘယ်လိုသိမလဲ မောင်"

"ရှာတန်းသူကိုမှ ကြိုက်လှပါချီရဲ့ ဖြစ်သွားတဲ့ စစ်ကိုင်းသူ။ ဘယ်သူရှိမလဲ ။ ဒေါ်ဝဿန်ဇူးမောင်ပေါ့"

"မောင်ရယ် တိုက်ဆိုင်လိုက်တာနော် ။"

"တစ်ခါက သူငယ်ချင်း။ ယခု စစ်မြေပြင်မှာ မောင်တို့ fight ရအုံးမယ်။ မဆိုးရိမ်ပါနဲ့။ မောင်သက်ညှာပေးမှာပါ။ မောင်က

ဘယ်သူမှတ်လို့။ ညစာစားဖို့ ဖိတ်ခဲ့မယ်။ ညဆုံကြတာပေါ့။ အားအောင် လုပ်ထား"

မောင်၏ ရှင်းပြပြ စကားတွေမှာ ကျွန်တော် ခေါင်းသာ ညိတ်မိ၏။ တစ်ခါက တက္ကသိုလ်မြေက သူငယ်ချင်းတွေနဲ့ ကျွန်တော်ဆုံရတော့မည်လေ။

"လွမ်းမောစရာတော့ ကောင်းတယ်။ တသရတယ်။ အောက်မေ့ရတယ်။ ဒါပေမယ့် ဘယ်လိုလုပ်မလဲ။ မောင့်မှာ ရုံးချိန်ရှိသေးတယ် မိတ်ဆွေလေး။"

တိုင်ကပ်နာရီသို့ ကြည့်ရင်းနှင့်ပင် မောင် ထိုစကားများကို ဆိုသွား၏။ ပြီးတော့ တစ်လှန်းခြင်း လျှောက်ပြီး မောင်က ကျွန်တော်တို့ အခန်းစီသို့ ဦးတည်သွား၏။ မောင်က အရင်က အတိုင်း ခန့်ညားဆဲ။ ကြည့်ကောင်းဆဲပင်။ အရွယ်တစ်ခု ရောက်သွားသည့် မောင့်မှာ ဇရာပြလာတာလေးတွေ ရှိပေမယ့် မောင်၏ ခန့်ညားခြင်းကတော့ လျော့မသွားခဲ့။ ထို့အတူ မောင်ပိုင်ဆိုင်ထားသော အနောက်ဥရောပဆန်စွာ ရှိနေသည့်

ကြည့်ပြာရောင် မျက်ဝန်းများဟာလည်း ဟိုတုန်းကအတိုင်း တောက်ပဆဲပင်။

ကျွန်တော်နှင့်မောင် အေးချမ်းသွားသလို အမိတက္ကသိုလ်မြေမှာ ဆုံခဲ့ကြသည့် အဖူး/အငုံများဟာလည်း အပွင့်/အလွှာများအဖြစ် ပြောင်းလဲရင်း အေးချမ်းနေမည်မှာ သေချာနေ၏။ အခုတော့ ကျွန်တော်လည်း မသိသေး။ ဆုံရင်တော့ သူတို့ရှိနေမည့် အရပ်ဒေသတွေနဲ့ ပြောင်းလဲသွားတဲ့ ဘဝဇာတ်ခုံမှာ ကျွန်တော် သူတို့အကြောင်း သိရမည်။ ဘုဏ်းမြတ်နှင့် မမနန်းကတော့ ပြေလည်ကြပြီး အိမ်ထောင်တစ်ခုပင် ထူထောင်ထားကြပြီ။ ထက်မြက်သည့် ဇူးဇူးနှင့် ငွေနှင်းလည်း ပြေလည်မည်ကို အတတ်သိ၏ ။ မောင်အစောက ပြောသွားသည့် စကားများပင် ရှိခဲ့၏ ။ မောင်တို့၏ တရားသူကြီးက ဇူးဇူးတဲ့လေ။ ထက်တဲ့ ဉာဏ်မှာ ဇူးဇူးကတော့ အမှန်တရားဘက်တော်သား တစ်ဦးအဖြစ် ရှိနေမည်ဆိုတာကို ကျွန်တော်အတတ်သိ၏။ ဒီထဲ သနားစရာ ကတော့ ကိုစိုင်းပင်။ အချစ်/မေတ္တာဆိုတာ ဘာမှန်းမသိပဲ မင်းခက်ကိုမှ သံယောဇဉ်ရှိရင်း မေတ္တာသက်ဝင်ခဲ့၏။ ကိစ္စတွေ မြောက်များစွာနှင့် သူတို့လည်း ကြုံကြိုက်ရင်း လောကဓံတရားမှာ

ကောင်းကောင်းဖြတ်ကျော်ခဲ့ဟန် ရှိပါ၏။ အခုတော့ အဆင်ပြေနေကြမည်ပဲ။

မတွေ့ဆုံခြင်းတွေမှာ ကျွန်တော် အတတ်တော့ မပြောနိုင်ပါ။ ကျွန်တော်နှင့် မောင်ကမှ ဆွေမျိုးနှစ်ခါတော်ခဲ့၏။ ကျွန်တော့် မမနှင့် မောင့်အကိုလည်း ထိမ်းမြားခဲ့ကြပြီး ယခုဆိုလျှင် သား/သမီးများနှင့်အိမ်ထောင်ရေး သုခများပင် ခံစားနေရပြီ။

"မိတ်ဆွေလေး---! မောင့် နခ်တိုင် တပ်ပေးအုံး"

"လာပြီ လာပြီ မောင်"

အခန်းထဲမှ မောင်၏ အသံကြားလာရခြင်းကြောင့် ကျွန်တော် မောင့်ကို အသံပေးပြီး ထိုအခန်းထဲသို့ သွားလိုက်၏။ ကြာရှည်လှပြီဖြစ်သည့် အိမ်ထောင်သက်တမ်း တစ်ခုမှာ မောင်၏ နခ်တိုင် တပ်ပေးရသူက ကျွန်တော်ပင်။ တည်ငြိမ်ပြီး ထက်မြက်သည့် မောင်က ဒီတစ်ချက်တော့ ကလေးဆန်၏။ အလိုက်သိသည့် ကျွန်တော်ကပဲ မောင့်အလိုကျရင်း မောင့်အပြုံး ရှိစေလိုက်၏။ မောင်ပြုံးလိုက်ရင် သိပ်ခန့်ညားတာဗျ။ သွားတက်/ပါးချိုင့် မရှိသည့် မောင့်အပြုံးမှာ သဘာဝအတိုင်းပင် မောင်က

ခန့်ညားပါ၏။ ဒါက ကျွန်တော်သဘောကျရသည့် ကြည်ပြာရောင် မျက်ဝန်းများကြောင့်လား ။ဒါတော့ ကျွန်တော်လည်းမသိချေ။

လွတ်သွားသည့် ကုလားထိုင်နည်းတူ ထိုညှော်ခန်း လေးမှာတော့ တိတ်ဆိတ်ခြင်းမရှိခဲ့။ နက်စွေးစွေး ဓါတ်ပြားတစ်ခုမှ ငြိမ့်ညောင်း ညောင်း သံစဉ်လေးက အတတ်အကျနှင့် စီးဝါးတကျရှိရင်း ထွက်ပေါ်လာသည့် သံစဉ်လေးမှာ ဤသို့ ဖြစ်၏။

🎶 "ကန်ရေပြင် မြေနီလမ်း တို့နဲ့ဝေး---

စွယ်တော်ခုံပြာတန်း တို့နဲ့ဝေး---

ယုံပါကွယ် အချစ်ဆုံး မင်းကို---

တို့တော့ သတိရနေပါ---" 🎶

တက္ကသိုလ်ဆိုသည့် အရပ်မျက်နှာစာတစ်ခုကို သင်တို့ မည်သို့ အဓိပ္ပါယ်ဖွင့်ဆိုချင်ပါသနည်း။

ကျွန်တော်အတွက်တော့ တက္ကသိုလ်ဆိုသည့် ရေသောက်မြစ် ရှိရာ မြေကြီးဟာ အဖူး/အငုံ ဝေဆာအောင် လုပ်ပေးသည့် အရပ်ထက် ပိုခဲ့၏။ လှပသည့် အတိတ်တွေမှာ ကိုယ်စီ ကိုယ်စီ ခြယ်မှုန်းရင်း ပုံရိပ်လွှာတွေ ရေးစပ်ခဲ့ကြ၏။ ပန်းပေါင်းစုံ ကြိုင်လှိုင်ရင်းရနံ့ ဝေစွာရှိခဲ့သည့် မြေမှာ ပိတုန်း/လိပ်ပြာလေးတွေဟာလည်း သင်းတဲ့ရနံ့အတိုင်း ရှိနေခဲ့၏။ ကံ့ကော် တစ်ထောက် / ရေတမာ တစ်ထောက် ခိုနားရင်း တစ်ချို့တွေဟာလည်း ကုက္ကိုလ်မှာပင် ခိုနားခဲ့ကြ၏။ လှပတဲ့ အတိတ်တွေ / လွမ်းမောစရာတွေ/ တသသစရာတွေ အပြည့်ရှိတဲ့ ထိုတက္ကသိုလ်မြေကြီးဟာ မလွမ်း မဆွေးတတ်သူကိုပင် နှစ်ခါပြန် လွမ်းမောသွားစေ၏။

တက္ကသိုလ်ဆိုသည့် ရေသောက်မြစ်ကြီးရှိရာ အမိတက္ကသိုလ် မြေကြီးဟာ ကျွန်တော့်အတွက်တော့လား--?။

နှစ်ခါပြန်ပင် အောက်မေ့ တသစေနိုင်လောက်တဲ့ အတိတ်ဆွေ လှပခဲ့တဲ့မြေ။ လွမ်းရယ်မပြေတဲ့မြေ။ ယခုစဉ်းစားလျှင် ယခု ပြန်ငယ်ချင်သွားသည့် စိတ်ကူးမှာ တစ်ခါက ကျောင်းသားဘဝ လည်း ပါဝင်ပါ၏။

(ခွန်စဝ်လက်ာ ၁၉၉၉ခုနှစ် ဒဿနိကဌာနမှကျောင်းသား။
မိတ္ထီလာတက္ကသိုလ်)

"------ တစ်ခါက တက္ကသိုလ်မှာ-----"

ပြီးပါပြီ။

ruby---(D.D) 🍁